http://www.dhammadownload.com

အမရပူရမြို့

ကျေးဇူးတော်ရှင် မဟာဂန္ဓာရုံဆရာတော်

အရှင်ဇနကာဘိဝံသ

၏

# သိပ္ပံအမြင်

နှင့်

# ဗုဒ္ဓအဘိဓမ္မာအမေး အဖြေများ



၁၃၆၅–ခုနှစ် တပေါင်းလ

နယူးဘားမားအော့(ဖ်)ဆက်ပိဋကပုံနှိပ်တိုက်

အမရပူရမြို့

http://www.dhammadownload.com

အမရပူရမြို့
မဟာဂန္ဓာရုံဆရာတော်၏
ဦးတည်ချက်



ဗုဒ္ဓမြတ်စွာ လောင်းလျာတုန်းက,
နောက်ဆုံးအထိ ပါရမီ၊

လူနတ်များစွာ ချမ်းသာရေးမို့,
အသက်ပေးလို့ ဖြည့်ခဲ့သည်။

ဗုဒ္ဓမြတ်စွာ သာသနာအတွက်မို့,
ငါပါ အသက် ဆုံးစေမည်။

နောက်မဆုတ်ပေါင် ခုလိုတွေးလို့,
ကာသိုလ်ရေးမို့ ကြိုးစားမည်။

တို့လဲ ကြိုးစားမည်။......

http://www.dhammadownload.com

အမရပူရမြို့

ကျေးရူးတော်ရှင် မဟာဂန္ဓာရုံဆရာတော်

အရှင်ဇနကာဘိဝံသ

၏

# သိပ္ပံအမြင်

နှင့်

# ဗုဒ္ဓအဘိဓမ္မာအမေး အဖြေများ



၁၃၆၅–ခုနှစ် တပေါင်းလ

နှယ်ဥးဘားမားအော့(ဖ်)ဆက်ဗိဋကပုံနှိပ်တိုက်

အမရပူရမြို့

http://www.dhammadownload.com


ဘာသာရေးဆိုင်ရာ စာမူခွင့်ပြုချက်
အမှတ် ( ၁၆ / ၉၇ ) ( ၆ )
စာအုပ်စာတမ်း စာနယ်ဇင်း မှတ်ပုံတင်ရုံး
ပုံနှိပ်ထုတ်ဝေခွင့်ပြုချက် အမှတ် ( ၁၃ / ၉၇ ) ( ၆ )

ခုနှစ် - ၂၀၀၄-ခုနှစ်
အုပ်ရေ - ၅၀၀၀
အကြိမ် - စတုတ္ထအကြိမ်
တန်ဖိုး - ၅၀၀

ကွန်ပျူတာစာစီ - နယူးဘားမား, မဟာဂန္ဓာရုံ, အမရပူရ။
ထုတ်ဝေသူ - ဦးမောင်မောင် (မြ-၀၃၂၅၁)
မဟာဂန္ဓာရုံစာပေ, ပိန်းတန်းရပ်,
အမရပူရမြို့။
ပုံနှိပ်သူ - ဦးတင်မြင့် (၀၅၈၃၅)
နယူးဘားမားအော့ဖ်ဆက်ပိဋကပုံနှိပ်တိုက်,
မဟာဂန္ဓာရုံ - မြင်းမူကျောင်း, အမရပူရမြို့။
ဖြန့်ချိရာဌာနများ - မဟာဂန္ဓာရုံကျောင်းတိုက်, ဇရပ်ဝင်း,
အမရပူရမြို့။
၁၂၈-ပ၊ စမ်းချောင်းလမ်း၊ ရှင်စောပု
ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

http://www.dhammadownload.com

ဘယ်ဘာသာပဲ ကိုးကွယ်ကိုးကွယ်
မတော်မတရား မလုပ်နဲ့
မတော်မတရား လုပ်လို့ရှိယင်
ဘယ်ဘာသာကမှ ကောင်းတယ်လို့မပြောဘူး
တရားသဖြင့်သာ လုပ်လို့ရှိယင်
ဘာသာတိုင်းက ကောင်းတယ်လို့ပြောတယ်။

*အမရပူရ မဟာဂန္ဓာရုံဆရာတော်*
*အရှင်ဇနကာဘိဝံသ*

သေခါနီး
ဘေးကအပေါင်းအဖော်တွေ
ကောင်းဖို့လိုတယ်နော်
ဘေးကစကားအပြောတွေ လိုက်ကိုလိုတယ်နော်
မငိုကြနဲ့နော်လို့
သတိပေးနေတဲ့ဥစ္စာဟာ
အမှားအယွင်းတွေဖြစ်ပြီးတော့
မကောင်းကံတွေ အခွင့်ရမှာစိုးလို့
တားမြစ်နေကြတာ။

*အမရပူရ မဟာဂန္ဓာရုံဆရာတော်*
*အရှင်ဇနကာဘိဝံသ*

http://www.dhammadownload.com

## အရှင်ဇနကာဘိဝံသ၏

# တစ်ဘဝသံသရာ ဖြစ်စဉ်အကျဉ်း

၁။ အရှင်ဇနကာဘိဝံသ ဆရာတော်လောင်း သူငယ်ကို စစ်ကိုင်းတိုင်း ရွှေဘိုခရိုင် ဝက်လက်မြို့နယ် သရိုင်ရွာ ဦးဇောတိ ဒေါ်အုန်းလှိုင်တို့မှ ၁၂၆၁–ခုနှစ် တပို့တွဲ လပြည့်ကျော် (၁၄) ရက် (၁၉၀၀– ပြည့်၊ ဖေဖော်ဝါရီလ ၂၇–ရက်) အင်္ဂါနေ့တွင် ဖွားမြင်သည်။

၂။ ၁၂၆၆–ခုနှစ်၌ ပထမအကြိမ် ရှင်သာမဏေပြုတော်မူသည်။

၃။ ၁၂၇၅–ခုနှစ်၌ ဒုတိယအကြိမ် ရှင်သာမဏေပြုတော်မူသည်။

၄။ ၁၂၇၉–ခုနှစ်၌ သက်တော် ၁၈–နှစ် အရွယ်တွင် ပထမကြီးတန်း စာမေးပွဲကို အောင်တော်မူသည်။

၅။ ၁၂၈၀–ပြည့်နှစ် တပေါင်းလပြည့်နေ့၌ ပထမအကြိမ် ရဟန်းအဖြစ် ခံယူတော်မူသည်။

http://www.dhammadownload.com

၆။ ၁၂၈၁–ခုနှစ် နယုန်လပြည့်နေ့၌ ဒုတိယအကြိမ်၊ ၁၂၈၁– ခုနှစ် တပေါင်းလပြည့်နေ့၌ တတိယအကြိမ် ရဟန်းအဖြစ် ခံယူတော်မူသည်။

၇။ ၁၂၈၇–ခုနှစ်၌ "ပထမကျော်"အောင်မြင်တော်မူသည်။

၈။ ၁၂၈၉–ခုနှစ်၌ "သက္ကျသီဟစာမေးပွဲ (ခေါ်) ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယ" ဘွဲ့ ရရှိအောင်မြင်တော်မူသည်။

၉။ ၁၃၀၃–ခု၊ ဝါဆိုဦး (၁၉၄၁–၄၂) ဂျပန်စစ်တပ်များ မြန်မာပြည်သို့ ဝင်ရောက်သိမ်းပိုက်မည့်နှစ်တွင် ယခုလက်ရှိ အမရပူရ မဟာဂန္ဓာရုံကျောင်းတိုက်နေရာသို့ ပြောင်းရွှေ့ သီတင်းသုံးတော်မူသည်။ ပြောင်းရွှေ့လာစဉ်က သံဃာတော် ငါးပါးမျှသာရှိ၍ ပျံလွန်တော်မူချိန်တွင် သံဃာတော်ငါးရာ ကျော်မျှ သီတင်းသုံးလျက်ရှိသည်။

၁၀။ (လွတ်လပ်ရေး ရရှိပြီးနောက်) ၁၃၁၂–ခုနှစ်၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ၏ (ရှေးဦးစွာ) "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ် ဆက်ကပ်ခြင်းကို ခံယူရသည်။

၁၁။ ၎င်းနှစ်မှာပင် နိုင်ငံတော်စာသင်ကျောင်းများ၌ သင်ကြားရန် မူလတန်း ဗုဒ္ဓဘာသာလက်စွဲခေါ် သင်ခန်းစာများကို ရေးသားခဲ့သည်။

၁၂။ ၁၃၁၅–ခုနှစ်၌

(က) ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယ သံဃနာယက၊

(ခ) ဆဋ္ဌသံဂီတိဘာရနိတ္ထာရက၊

(ဂ) ဆဋ္ဌသံဂီတိပါဠိပဋိဝိသောဓက၊

(ဃ) ဆဋ္ဌသံဂီတိ ဩသာနသောဓေယျ ပတ္တပါဠက အဖြစ် တင်မြှောက်တော်မူခြင်းကို ခံယူရပါသည်။

http://www.dhammadownload.com

၁၃။ ၁၃၃၇-ခု၊ ပဲခူးမြို့၌ ကျင်းပအပ်သော ဂိုဏ်းလုံးကျွတ် သံဃာအစည်းအဝေးကြီးက ရွှေကျင်ဂိုဏ်းကြီး၏ ဥပဥက္ကဋ္ဌ (ဒုတိယသာသနာပိုင်) အဖြစ် တင်မြှောက်ခြင်းကို ခံယူတော်မူသည်။

၁၄။ ၁၂၉၁-ခု၊ သက်တော် (၃၀) မှစ၍ ကျမ်းစာများကို စတင်ပြုစုတော်မူခဲ့ရာ ၁၂၉၃-ခုနှစ်တွင် ပထမဦးဆုံးကျမ်းစာကို ရေးသားပြီးစီးတော်မူ၍ ၁၃၃၈-ခု၊ တန်ဆောင်မုန်းလတွင် "နောက်ဆုံးဆယ်လ မြတ်ဗုဒ္ဓ" ကျမ်းစာကို ရေးသားပြီးလျှင် "တစ်ဘဝသံသရာ" အမည်ဖြင့် ထေရုပ္ပတ္တိကို ကိုယ်တိုင်ရေးတော်မူခဲ့သည်။ ပဋ္ဌာနပကရဏဘာသာဋီကာနှင့် မူလဋီကာနိဿယ၊ ပါဠိတော် နိဿယများကို ၁၃၃၆ ခု၊ တန်ဆောင်မုန်းလဆန်း ၅ ရက် (၁၈-၁၁-၇၄) တနင်းလာနေ့ ၁-နာရီ အချိန်တွင် စတင်ပို့ချ ရေးသား၍ ၁၃၃၉-ခု၊ ဝါခေါင်လဆန်း ၁၂ ရက်နေ့မှာ ပြီးဆုံးခဲ့ပါသည်။ သုတ်မဟာဝါ ဘာသာဋီကာကို ၁၃၃၇-ခု၊ ဝါဆိုလပြည့်ကျော် ၂ ရက်၊ ကြာသပတေး နေ့(၂၄-၇-၇၅) ၌ စတင်ပို့ချရေးသား၍ ၁၃၃၉-ခု၊ နတ်တော်လဆန်း ၁၃ ရက် (၂၃-၁၂-၇၇) သောကြာနေ့ ပျံလွန်တော် မမူမီ ၅ ရက်အလိုတွင် ပြီးတော်မူခဲ့ပါသည်။ ပါထေယျဘာသာဋီကာကိုပင် တစ်ရက်မျှ ရေးသား ပို့ချခဲ့ပါသေးသည်။

၁၅။ ၁၃၃၉-ခုနှစ်၊ သက်တော် (၇၈) နှစ် အရောက် နတ်တော် လပြည့်ကျော် ၂ ရက် (၁၉၇၇-ခု၊ ဒီဇင်ဘာလ ၂၇ ရက်) အင်္ဂါနေ့ ညနေ (၄) နာရီ မိနစ် (၃၀) တွင် တစ်ဘဝအတွက် ငြိမ်းတော်မူပါသည်။

http://www.dhammadownload.com

# အမှာစာ

အမရပူရမြို့၊ မဟာဂန္ဓာရုံကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ အရှင်ဇနကာဘိဝံသ ဆရာတော်သည် ၁၃၃၅ ခု၊ ပြာသိုလဆန်း ၈ ရက် တနင်းလာနေ့၊ (၁၉၇၃ ခု ဒီဇင်ဘာလ ၃၁ ရက်နေ့) တွင် ရန်ကုန်မြို့၊ ဗဟန်း ဝိသုဒ္ဓါရုံစာသင်တိုက်၌ ခေတ္တ သီတင်းသုံး လျက်ရှိပါသည်။ ဆရာတော်၏ ကျမ်းစာအုပ်များကို ဖတ်ရှုရသဖြင့် ဆရာတော်၏ ပရိယတ္တိတတ်မြောက်မှုနှင့် အရေးအသားရှင်းလင်းမှု တို့ကြောင့် ဆရာတော်အား ရိုသေလေးစားလျက် ရှိကြသော ရန်ကုန် မြို့၊ တံတားကလေး၊ စိတ်ရောဂါအထူးကု ဆေးရုံအုပ်ကြီး ဦးနေဝင်း နှင့် ဂါဒီယန်သတင်းစာဆရာ ဦးစိန်ဝင်းတို့သည် ဆရာတော် ရန်ကုန်ရောက်ခိုက် မိမိတို့ မရှင်းလင်းသည့် တရားသဘောများကို မေးလျှောက် နာကြားရန် ဆရာတော်မြတ်၏ ခြေတော်ရင်းသို့ သွားရောက် ဆည်းကပ်ခဲ့ကြပါသည်။

ဆရာဝန်ကြီး ဦးနေဝင်းက ဘာသာရေးစာအုပ်များကို ဖတ်၍ ဘဝင်မကျခဲ့သော ဗုဒ္ဓ အဘိဓမ္မာဆိုင်ရာ ပြဿနာတို့ကို ဖြေကြားရှင်းလင်းပြတော်မူရန် တစ်ခုပြီးတစ်ခု ဆက်တိုက် လျှောက်ထားခဲ့လေသည်။ ဆရာတော်ကလည်း ကျမ်းကိုး ကျမ်းကားမပြ၊ ပါဠိပါဌ်သားမရွတ်ဘဲ ဗုဒ္ဓအဘိဓမ္မာကို ကိုယ်တိုင် သဘောပေါက် ခံယူထားသည့်အတိုင်း စိတ်ရှည်လက်ရှည် ဖြေကြားတော်မူခဲ့ပေသည်။

ဆရာတော်ကြွရောက်သမျှ နေရာတိုင်းသို့ ရဟန်းပညာရှိ လူပညာရှိတို့ ကြွလာချဉ်းကပ်၍ ပိဋကတ်ဆိုင်ရာ ဘာသာရေးပုစ္ဆာ ပြဿနာများကို မေးမြန်းလျှောက်ထားလေ့ရှိကြသည်။ ဆရာတော် ကလည်း မှတ်လောက် သားလောက်အောင် အာဂမ သဘာဝ

http://www.dhammadownload.com

ယုတ္တိများဖြင့် ဖြေကြားပေးလေ့ ရှိသည်။ ထိုဆွေးနွေးချက် ပြဿနာနှင့် အဖြေလွှာများမှာ လာရောက်ဆွေးနွေးသူ တစ်ဦးတစ်ယောက်နှင့်သာ ဆိုင်သည်မဟုတ်။ ဗုဒ္ဓဘာသာဝင်အားလုံးတို့ သိမှတ်လိုက်နာ ကျင့်ကြံစရာများ ဖြစ်လေ့ရှိသည်။ ထို့ကြောင့် ဆရာတော်၏ တပည့်ဒါယကာတို့က ဆွေးနွေးချက်များကို ကက်ဆက်အသံဖမ်းကြိုးခွေများဖြင့် ဖမ်းယူထားလေ့ရှိသည်။

ဆရာဝန်ကြီး ဦးနေဝင်း၏ မေးလျှောက်ချက်နှင့် ဆရာတော်ဖြေကြားချက်များကိုလည်း အသံဖမ်းယူထားခဲ့သည်။ မေးဖြေထားသော အကြောင်းအရာများမှာ ဗုဒ္ဓဘာသာဝင်များသာမဟုတ်။ ဘာသာမရွေး၊ လူမျိုးမရွေး သိသင့်သော အကြောင်းအရာများဖြစ်၏။ စိတ်အကြောင်း၊ ရုပ်အကြောင်း၊ သေပြီးနောက် ဘဝကူးပုံအကြောင်း၊ ကမ္မသတ္တိအကြောင်း၊ စိတ်ဝေဒနာအကြောင်း၊ စိတ်ညှို့၍ အတိတ်ဘဝဖြစ်စဉ်များ စုံစမ်းပုံအကြောင်း၊ သေခါနီး သတိထားစရာအချက်များ၊ မေတ္တာပို့၊ ဆုတောင်း၊ အမျှဝေခြင်းဆိုင်ရာ သိစရာများစသည်တို့ဖြစ်၍ ဗုဒ္ဓဘာသာ မဟုတ်သူတို့ပါ ကက်ဆက်ခွေကို အဆင့်ဆင့်ကူးယူနားထောင်ကြသည်။ ဆရာတော်ကလည်း ဗုဒ္ဓအဘိဓမ္မာကို ဘာသာရေးအနေဖြင့် မဟုတ်ဘဲ ပညာရပ်တစ်ခုအနေဖြင့် လေ့လာလိုက်စားကြစမ်းပါဟု မကြာခဏ တိုက်တွန်းထားသည်။

ဆရာတော်၏ ဆန္ဒအတိုင်း ဘာသာမရွေး၊ လူမျိုးမရွေး၊ ဗုဒ္ဓအဘိဓမ္မာကို ပညာရပ်တစ်ခုအနေဖြင့် လေ့လာလိုက်စားနိုင်ကြစေရန်အတွက် ဆရာတော်၏စာပေများ ပုံနှိပ်ဖြန့်ချိရေးအဖွဲ့မှ တာဝန်ခံဦးထိန်ဝင်းက အသံဖမ်းကြိုးခွေမှတစ်ဆင့် စာမူအဖြစ်ရေးကူးကာ စာအုပ်ငယ်အဖြစ် ပုံနှိပ်ဖြန့်ချိခြင်း ဖြစ်ပါသည်။

http://www.dhammadownload.com

ဤစာအုပ်ငယ်၏ မူလအမည်မှာ "အဂ္ဂမဟာပဏ္ဍိတ အရှင်ဇနကာဘိဝံသနှင့် ဆရာဝန်ကြီး ဦးနေဝင်းတို့ ဆွေးနွေးခန်း" ဖြစ်သည်။ "အရှင်ဇနကာဘိဝံသ၏ စာပေဖြန့်ချိရေးအဖွဲ့" မှ ဦးထိန်ဝင်း၊ ယခင် သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွန့်၊ ညွှန်ကြားရေးမှူး ဦးတင်ထွေးနှင့် ဤအမှာစာရေးသူတို့က စာအုပ်ငယ်အမည်ကို "သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ" ဟု ပြင်ဆင်မှည့်ခေါ်ခဲ့ကြပါသည်။

ဆရာဝန်ကြီးဦးနေဝင်းသည် သူတစ်ဦးတည်း၏ ပုဂ္ဂလိကဆိုင်ရာ သိချင်စရာများကို မေးမြန်းလျှောက်ထားခြင်း မဟုတ်ဘဲ ဗုဒ္ဓဘာသာဝင်အများစု သို့မဟုတ် ဘာသာမရွေး လူတိုင်း သိသင့်သိထိုက်သော ပြဿနာများကို သိပ္ပံအမြင် ရှုထောင့်မှ မေးမြန်းခဲ့၍ ဆရာတော်က ဗုဒ္ဓအဘိဓမ္မာအမြင် ရှုထောင့်မှ ဖြေကြားထားသော စာအုပ်ငယ်ဖြစ်ပါသည်။ မေးသူဦးနေဝင်းအတွက်သာ ဖြေဆိုခြင်း မဟုတ်ဘဲ ဗုဒ္ဓဘာသာ ပရိသတ်ကြီးအတွက် ဖြေဆိုထားကြောင်းကို စာမျက်နှာ ၃၇ တွင် ဆရာတော်ကိုယ်တိုင် အမိန့်ရှိထားပေသည်။

ဦးနေဝင်းသည် စိတ်ဖက်ဆိုင်ရာနှင့် ဦးနှောက်အာရုံကြောဆိုင်ရာ သိပ္ပံပညာရပ်များကို ပြည်တွင်းပြည်ပ ဆေးတက္ကသိုလ်များ၌ နှစ်ပေါင်းများစွာ သင်ယူတတ်မြောက်ပြီးသူ ဖြစ်သည်။ စိတ်အကြောင်း၊ ဦးနှောက်အကြောင်း၊ ရုပ်အကြောင်းတို့ကို သိပ္ပံအမြင်ဖြင့် သဘောပေါက်ပြီးသူဖြစ်သည်။ ဗုဒ္ဓအဘိဓမ္မာအမြင်ဖြင့် မည်သို့လက်ခံယူဆသည်ကို သိရန် မေးမြန်းလျှောက်ထားခြင်း ဖြစ်သည်။

ဆရာတော်သည် သိပ္ပံဘာသာ အဆိုအမိန့် ရှင်းလင်းချက်တို့ကိုလည်း မလေ့လာ၊ သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအယူအဆ

http://www.dhammadownload.com

တို့ကိုလည်း နှိုင်းယှဉ်၍ ဟောလေ့ ရေးလေ့ မရှိ။ ဗုဒ္ဓအဘိဓမ္မာ သက်သက်ကိုသာ ယုံကြည် လေ့လာသည်။ ယခု ဆရာဝန်ကြီး ဦးနေဝင်း၏ အမေးများကိုလည်း ဗုဒ္ဓအဘိဓမ္မာအမြင် သက်သက် ဖြင့်သာ ဖြေဆိုထားပါသည်။ ဖြေဆိုရာ၌ မည်သည့်ကျမ်းက မည်သို့ ဆိုထားသည်ဟု ကျမ်းဂန် အကိုးအကား အထောက်အထားများဖြင့် မဖြေ။ ဆရာတော်၏ အသည်းနှလုံး၌ စိမ့်ဝင်နေသော၊ တစ်နည်းအား ဖြင့် ဆရာတော်ကိုယ်တိုင် သဘောပေါက်လက်ခံထားသော အဘိဓမ္မာ တရားများကိုသာ ဖြေဆိုထားပေသည်။

ပုံစံအားဖြင့် သေပြီး နောက်ဘဝ မည်သို့ ကူးသနည်းဟူသော အမေးကို စာမျက်နှာ ၄၅ မှ ၆၀ အထိ ၁၆ မျက်နှာခန့် ဖြေသည်။ ကမ္မသတ္တိအကြောင်း ပေါ်လွင်အောင် ဖြေဆိုထားတော်မူသည်။ ဗုဒ္ဓပွင့်တော်မမူမီက အိန္ဒိယပြည်တွင် လွှမ်းမိုးခဲ့သော ဗြာဟ္မဏတို့၏ အတ္တဝါဒအရ အတ္တကောင် ဝိညာဉ်ကောင်ကလေးသည် ဤဘဝရုပ်ဟောင်းမှ စွန့်ခွာ၍ နောင်ဘဝ ရုပ်သစ်တစ်ခု၌ ဝင်စား ရှင်သန်သဖြင့် သတ္တဝါသည် မြဲ၏။ ဘယ်တော့မှ မသေဟူသော သဿတဒိဋ္ဌိတစ်ဖက်စွန်းနှင့် သေပြီးနောက် ဘာမှ မဖြစ်ဟူသော ဥစ္ဆေဒဒိဋ္ဌိတစ်ဖက်စွန်း၊ ဤအစွန်းနှစ်ပါးမှလွတ်အောင် ကမ္မသတ္တိ စွမ်းအားကို ကြိုးစားရှင်းပြတော်မူသည်။

ဤသို့ မေးသူက သိပ္ပံအမြင်နှင့် မေး၍ ဖြေသူက ဗုဒ္ဓအဘိ ဓမ္မာဖြင့် ဖြေဆိုထားသောကြောင့် ဤစာအုပ်ငယ်ကို **"သိပ္ပံအမြင် နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ"** ဟု အမည်တပ်ပေးလိုက်ခြင်း ဖြစ်ပါသည်။

**သောင်းလွင် (ဘီအေ)**

သိရိပဝရ ဓမ္မာစရိယ၊ သကျသီဟ ဝင့်သကာ

http://www.dhammadownload.com

# သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ

## မာတိကာ


တစ်ဘဝသံသရာဖြစ်စဉ်အကျဉ်း

အမှာစာ

| မေးခွန်းအမှတ် | မေးခွန်း | စာမျက်နှာ |
|---|---|---|
| ၁ | ရုပ်ဖြစ်ပျက်မှုနဲ့ စိတ်ဖြစ်ပျက်မှုမှာ အဆပေါင်းများစွာ လျင်မြန်တယ်လို့ ဆိုတယ်။ စိတ်ဖြစ်ပျက်နေပုံကို ထင်ရှားအောင် ရှင်းပြပါဘုရား။ | ၁ |
| ၂ | ရုပ်ဖြစ်တဲ့အချိန်နဲ့ စိတ်ဖြစ်တဲ့အချိန်မှာ အဆပေါင်းများစွာ လျင်မြန်တယ်လို့ ဆိုပါတယ်။ စိတ်ဖြစ်ပျက်ပုံကို ထင်ရှားအောင် ရှင်းပြပါ။ | ၂၈ |
| ၃ | ရုပ်စိတ်တော့ ရှင်းပါပြီ၊ တပည့်တော် သိချင်တာက စိတ်နဲ့ ရုပ်နဲ့ မျှလို့.. သန္ဓေတည်တော့ ဘယ်ဟာအရင်။ | ၃၀ |
| ၄ | အခုန ကံတရားအကြောင်း ဟောသွားတာ တပည့်တော်က စိတ်ရောဂါနဲ့ | |

http://www.dhammadownload.com


| မေးခွန်းအမှတ် | မေးခွန်း | စာမျက်နှာ |
| --- | --- | --- |
| | ပတ်သက်လို့ ဝါသနာပါတာ။ စိတ်ရောဂါဟာလည်း ကံတရားကြောင့် ဖြစ်သလား။ သို့မဟုတ် စိတ်ပညာဆရာများ အလိုအရ ပတ်ဝန်းကျင်ကြောင့်လား။ | ၃၄ |
| ၅ | တပည့်တော်တို့ နိုင်ငံခြားတွေ ဘာတွေ သွားတော့ သူတို့က မေးကြတယ်။ စိတ်ရောဂါနဲ့ ပတ်သက်လို့ ဗုဒ္ဓဘာသာက ရောဂါ ဖြစ်ပုံပျက်ပုံ ဘယ်လိုဆိုသလဲတဲ့။ | ၃၇ |
| ၆ | တစ်ချို့ အနောက်နိုင်ငံမှာ စိတ် ရောဂါ တစ်မျိုးဖြင့် ကိုယ့်အသက်ကို သေကြောင်း ကြံကြ သေကြပါတယ်။ အဲဒါ ဗုဒ္ဓဘာသာ တိုင်းပြည် အနေနဲ့တော့ တရားတော်အရ ဘယ်လိုပါလဲ။ | ၄၂ |
| ၇ | အနောက်နိုင်ငံ ရုပ်ဝါဒီသမား အချို့က ပြောပါတယ်၊ စိတ်သည် အလွန်နူးညံ့ သိမ်မွေ့သော ရုပ်ပင် ဖြစ်တယ်လို့။ | ၄၄ |
| ၈ | ဒီဘဝမှ နောက်ဘဝသို့ မည်သို့ ကူးပြောင်းကာ စုတေစိတ်ကျသောအခါ စိတ်နဲ့ ရုပ်တို့ နောင်ဘဝသို့ မည်သို့ ကူးပြောင်းပါသနည်း။ | ၄၅ |

http://www.dhammadownload.com


| မေးခွန်းအမှတ် | မေးခွန်း | စာမျက်နှာ |
|---|---|---|
| ၉ | နောက်ဆုံး နိဗ္ဗာန်ရောက်ပြီဆိုတာနဲ့ စိတ်နဲ့ ရုပ်တို့ မည်သို့ အဆုံးသတ်ပါသလဲ။ | ၄၅ |
| ၁၀ | ရုပ်ကကော ဘယ်လိုပြောင်းပါသလဲ။ | ၆၀ |
| ၁၁ | ငယ်ရွယ်သော ကလေးအချို့သည် သင်ကြားခြင်းမရှိဘဲ ကျမ်းစာများကို ရွတ်ဆိုနိုင်ခြင်း၊ အထက်တန်းကျသော အတွက်အချက်များကို ပြုလုပ်နိုင်ခြင်းတို့ကို မြန်မာပြည်၌ လည်းကောင်း၊ နိုင်ငံခြား၌ လည်း ကောင်း တွေ့ရပါသည်။ အဘယ်ကြောင့် မသင်ဘဲ တတ်မြောက်ပါသလဲ။ | ၆၂ |
| ၁၂ | စိတ်ရောဂါတွေမှာ စိတ်လှုပ်ရှားမှုက အလွန်များပါတယ်၊ အဲဒီတော့ စိတ်ငြိမ်ခဲ့လို့ရှိယင် နည်းနည်းပါးပါး ပုတီးစိပ်တာ တရားထိုင်တာ ကောင်းပါသလား။ | ၆၄ |
| ၁၃ | ကမ္မဋ္ဌာန်းထိုင်တော့ အာရုံ နည်းသွားပါသလား။ | ၆၆ |
| ၁၄ | တရားတော်မှာ စိတ်က တစ်ကြိမ်မှာ ၂ ခု ဖြစ်ပါသလား။ | ၆၇ |
| ၁၅ | သာမန်အားဖြင့်တော့ တပည့်တော်တို့ တရားနားထောင်နေတဲ့အခါမှာ အိမ်ကိုလည်း စိတ်ကူးလို့ရသလား။ ဒါဘယ်လိုများ စိတ်ကူးပါသလဲ။ | ၆၇ |

http://www.dhammadownload.com

| မေးခွန်းအမှတ် | မေးခွန်း | စာမျက်နှာ |
|---|---|---|
| ၁၆ | စိတ်ညှို့တာ ဗုဒ္ဓဘာသာက ဘယ်လိုပါလဲ၊ အနောက် နိုင်ငံမှာတော့ လုပ်နေကြတယ်။ | ၆၈ |
| ၁၇ | ဘုရားတပည့်တော်တို့ အနောက်နိုင်ငံမှာ စိတ်ညှို့ပြီး တဖြည်းဖြည်း ငယ်ရွယ်တဲ့ ဘဝ မေ့ပြီးတော့ နောင်သုံးဘဝအထိ မေးခဲ့တာကို အနောက်နိုင်ငံမှာ တွေ့ရပါတယ်။ အဲဒီ ဥစ္စာတွေဟာ သူတို့က လက်တွေ့မှ ယုံတယ်။ အဲဒါကို ကြည့်ခြင်းအားဖြင့် ဘဝကူးတယ် ဆိုတာ ဘဝအဆက်ဆက် ရှိတယ်ဆိုတာ ယုံလောက်အောင် ဖြစ်နေပါတယ်။ ရေးတဲ့ ပုဂ္ဂိုလ်ကလည်း ဒါမျိုးမယုံတဲ့သူက ရေးတာ၊ ဒီဥစ္စာကို ဟုတ်မဟုတ် လိုက်စုံစမ်းတဲ့ဥစ္စာ ဟာလည်း မယုံတဲ့သူက စုံစမ်းတာ။ သူတို့ ကတော့ လက်တွေ့နဲ့ညှိပြီတော့ ယုံတယ်၊ ဘုရား တပည့်တော်တို့ ဗုဒ္ဓဘာသာကတော့ ဘဝကူးတယ်ဆိုတာ ပြောလို့မရဘူး၊ လက်တွေ့ ပြနိုင်ရမယ်။ | ၆၈ |
| ၁၈ | သူတို့မှာတော့ လူတိုင်းကို ညှို့လို့မရဘူး၊ ညှို့လို့ရပေတဲ့ လူတိုင်းဟာ အရှည်ကြီး မပြောနိုင်ဘူး။ ဥပမာ လူတိုင်းကိုတောင် မိအောင်မညှို့နိုင်ဘူး။ အညှို့ခံရတဲ့ ပုဂ္ဂိုလ်က နေပြီးတော့ ခုနက စာအုပ်ထဲမှာ ပါလာတဲ့ | |

http://www.dhammadownload.com

| မေးခွန်းအမှတ် | မေးခွန်း | စာမျက်နှာ |
| --- | --- | --- |
| | ပထမတစ်ယောက်၊ သူ့မှပဲ မေးလို့ ရတယ်။ သူကတော့ နည်းနည်း မေးကြည့်ပြီးတော့ နောက်ကျတော့ နောင်ဘဝပြီးတဲ့ နောက်ဘဝ ကို မေးတယ်။ | ၇၀ |
| ၁၉ | ဗုဒ္ဓဘာသာမှာ အမျှဝေခြင်း၊ ဆုတောင်းခြင်း၊ မေတ္တာပို့ခြင်းဆိုတာ ဘယ်လိုအကျိုး ရှိပါသလဲ။ | ၇၂ |
| ၂၀ | စိတ်ဟာ ဦးနှောက်မှာဖြစ်တယ်လို့ နိုင်ငံခြား ပါရဂူများက ဆိုကြပါတယ်။ ဗုဒ္ဓဘာသာ မှာ ဟဒယဝတ္ထု (နှလုံး) မှာ ဖြစ်တယ်လို့ ကြားဖူးပါတယ်။ ရှင်းပြတော်မူပါ။ | ၈၂ |
| ၂၁ | တစ်ပါးသောရဟန်းက ဝိနည်းတော်နှင့် မအပ်သောနည်းဖြင့် ရရှိ ထားသော၊ ဥပမာ ဒကာ ဒကာမတို့ လှူချင်လာအောင် ဆွယ်တရားဟော၍ ရရှိထားသော ဆွမ်း ကျောင်း အစရှိသည်တို့ကို စားသုံးသူ ရဟန်း တိုင်း အပြစ်ရှိသည်ဟု ဆိုပါသည်။ တရား တော်၌ 'စေတနာဆန္ဒ အဓိကပါ' ဆိုထားရာ မအပ်သော နည်းဖြင့် ရရှိထားသော ဆွမ်းမှန်း ကျောင်းမှန်းမသိ၍ စားသုံးမိလျှင် စားသုံး နေသော ရဟန်းသည် စေတနာမပါ၍ အပြစ်ရှိသလား။ | ၈၅ |

http://www.dhammadownload.com


| မေးခွန်းအမှတ် | မေးခွန်း | စာမျက်နှာ |
|---|---|---|
| ၃၃ | မီးငြိမ်းသွားသလိုဆိုတော့ လုံးဝ ဘာမှ မရှိဘူးလား။ | ၉၇ |
| ၃၄ | ဘုရားရဟန္တာများ စုတိစိတ် ဖြစ်ပြီး နောက်ဥပ္ပါဒ နိရောဓ ပျောက်သွားတယ်၊ အနုပ္ပါဒ နိရောဓ ကျန်နေတယ် ဆိုပါတယ်၊ ဟုတ်ပါသလား။ | ၁၀၀ |
| ၃၅ | မတော်မလျော်နေသော ရဟန်းသာမဏေများကို အပြစ်ပြောလျှင် အကုသိုလ် ဖြစ်ပါသလား။ | ၁၀၀ |
| ၃၆ | စက္ခုပသာဒရုပ်က ကမ္မဇကောန် သက်သက်သာ ဖြစ်သောကြောင့် အချို့ဆရာဝန်များ လူသေမျက်စိကို လူကောင်းတစ်ယောက်ထဲ ထည့်ကုလို့ မြင်တယ်ဆိုတာ ဖြစ်နိုင်ပါသလား။ | ၁၀၄ |
| ၃၇ | လူတိုင်းတော့လည်း မရပါဘူး။ | ၁၀၅ |

http://www.dhammadownload.com

အမရပူရ
မဟာဂန္ဓာရုံကျောင်းတိုက်
ဆရာတော် အရှင်ဇနကာဘိဝံသ–၏

# သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာအဖြေများ

## မေးခွန်း (၁)

မေး။ ။ ရုပ်ဖြစ်ပျက်မှုနဲ့ စိတ်ဖြစ်ပျက်မှုမှာ အဆပေါင်းများစွာ လျင်မြန်တယ်လို့ ဆိုတယ်။ စိတ်ဖြစ်ပျက်နေပုံကို ထင်ရှားအောင် ရှင်းပြပါဘုရား။

ဖြေ။ ။ ဘုန်းကြီးတို့ ဗုဒ္ဓမြတ်စွာက ရုပ်တစ်ခါပျက်တဲ့အချိန်မှာ စိတ်က (၁၇) ချက် ပျက်တယ်လို့ ဆိုပါတယ်။ စိတ် (၁၇) ချက် ပျက်တယ် ဆိုတာ လူများအတွက်က နားလည်ဖို့ သိပ်မလွယ်လှပါဘူး။ ဘာဖြစ်လို့ မလွယ်တုံးလို့ဆိုတော့ ပထမဆုံး မေးဖို့ကောင်းတာက စိတ်ဆိုတာ ဘယ်လို သဘောပါတုံး။ ဒီလိုမေးမှ အဖြစ်အပျက်ကို ရောက်သွားမယ်။ ကိုယ်မေးချင်တဲ့ အရာဝတ္ထုပစ္စည်း တစ်ခုကို ဘယ်လိုပစ္စည်း၊ ဒီလို သိပြီးတော့မှ အဲဒီဟာ ဘယ်လောက်မြန်သလဲ၊ ရုပ်က ဘယ်လို သဘောလဲ၊ ဒီဟာကိုကြည့်ပြီးတော့မှ အဖြစ်အပျက်ကို ရှင်းဖို့ ကောင်းတယ်။ ခုတော့ တစ်ဆင့် လွန်ပြီးတော့မှ ရောက်သွားတယ်။

http://www.dhammadownload.com



ဒီတော့ကာ ဗုဒ္ဓရဲ့ တရားတော်မှာ ပြဿနာက မပြည့်စုံသေးလို့ရှိယင် မေးနည်းကို ပြင်ပေးတဲ့ နည်း ရှိပါတယ်။ ဒီတော့ ပြင်ပေးလိုတာက စိတ်ဆိုတာ ဘယ်လိုသဘောပါလဲ။ ဒီလို မေးယင် သာ–ကောင်းတယ်။ ဒီတော့ ဒီလိုဘဲ မေးတယ်ဆိုပါတော့။ စိတ်ဆိုတာ ဘယ်လိုသဘောပါတုံး။

**စိတ်ရဲ့သဘော** ဘုန်းကြီးတို့ ဗုဒ္ဓမြတ်စွာက စိတ်သဘောဟာ အဝေးအာရုံကိုလည်း ယူနိုင်တယ်။ နှစ်စိတ် တစ်ပြိုင်တည်း ဖြစ်ရိုးမရှိဘူး။ တစ်စိတ်စီ တစ်စိတ်စီ ဖြစ်တယ်။ အဖြစ်အပျက် မြန်တယ်။ ဘယ်လောက်မြန်လဲဆိုတော့ လက်ဖြောက် တစ်ချက်တီးတဲ့ အချိန်မှာ ကုဋေများစွာ ဖြစ်ပျက်တယ်။ စိတ်ချင်းတော့ တူချင်မှတူမယ်။ အာရုံလိုက်ပြီးတော့ အမျိုး မျိုးတော့ရှိတယ်။ အဲဒီစိတ်ရဲ့ အဖြစ်အပျက်ကတော့ လက်ဖြောက် တစ်ချက်လောက် တီးလိုက်ယင် ကုဋေ တစ်သိန်းမက ဖြစ်ပျက်နေဟယ်။ စိတ်ဟာ အကောင်အထည် အရာဝတ္ထု အထည်ကိုယ် ရှိသလားလို့ဆိုတော့ အထည်ကိုယ် မရှိဘူး။ အထည်ကိုယ်မရှိယင် စိတ်မရှိဘူးလား၊ မဟုတ်ဘူး၊ စိတ်ဆိုတဲ့သဘောက ရှိတယ်။ အကောင်အထည်တော့ မရှိဘူး၊ ဒီစိတ်ဟာ ဘယ်လိုနေရာမှာ အဖြစ်များတုံးလို့

http://www.dhammadownload.com



ဆိုယင် ဘုန်းကြီးတို့ ဒီဘုံမှာဆိုတော့ မဟာဘုတ် ဆိုတဲ့ ဟဒယ–လိုဏ်ဂူမှာ။ လိုဏ်ဂူဆိုတာ တင်စားပြောတာ။ တကယ့်ဂူလည်း မဟုတ်ပါဘူး။ ဟဒယမှာ အဖြစ်များတယ်။ အဖြစ်များတယ်ဆိုတော့ အကောင်အထည်မှ မရှိဘဲနဲ့။ အဲဒီအပေါ်မှာ သူက ကပ်ပြီးတော့ ဖြစ်နေတဲ့ သဘော မဟုတ်ဘူး။ သူရှိလို့ဖြစ်နိုင်တာ။ သူမရှိလို့ရှိယင် မဖြစ်ဘူး ဆိုတဲ့အနေမျိုး။ ဒီတော့ စိတ်သဘာဝကို ပထမဆုံး စဉ်းစားကြည့်ယင် ဘယ်လောက် သိမ်မွေ့သွားသလဲ။ ဒါကို နားမလည်ယင် ထပ်မေး။ ဒီတော့ ဗုဒ္ဓမြတ်စွာက ဆက်ပြီးတော့ စိတ်သဘာဝကိုသာ အမိန့်ရှိရုံတင် မဟုတ်ဘူး။ အဲဒီစိတ်ကို ထိန်းနိုင်လို့ရှိယင် ဒုက္ခအမျိုးမျိုးက လွတ်တာဘဲ။ ဒီထိအောင် ဟောချင်လို့ ခုနက စိတ်ရဲ့သဘောကို အစချီပြီးတော့ ဟောတော်မူပါတယ်။

**အဝေးအာရုံ လှမ်းပြီးယူနိုင်** ဒီဟာကို ဘုန်းကြီးပြောမယ် ထပ်ပြီးတော့၊ စိတ်ဆိုတဲ့သဘောဟာ အဝေးအာရုံကို လှမ်းပြီးတော့ ယူနိုင်တယ်။ ဥပမာ – ဒကာ နေဝင်းပဲ။ မိမိအလုပ်လုပ်တဲ့နေရာကို စိတ်ညွတ်လိုက်ယင် ထင်နေတာဘဲ မှားသလား၊ မှန်သလား ဆိုတာကိုတော့ မပြောနိုင်ဘူး။ ဘာပြုလို့တုံး။ ဟိုနားမှာ ကုလားထိုင် ထားခဲ့မယ်။ ရွှေ့သွားတဲ့သူက ရွှေ့သွားမယ်။ သို့ပေမယ်လို့

http://www.dhammadownload.com



ကိုယ်က မြင်နေတာကတော့– အဲဒီနေရာမှာ ကုလားထိုင် မြင်နေတယ်။ အဝေးကိုသွားနိုင်တယ်ဆိုတာ ဘယ်လောက် များမြန်သလဲလို့ဆိုတာတော့ မပြောနဲ့တော့။ မိမိအလုပ် လုပ်တဲ့ နေရာကို ဒီနားကနေပြီးတော့ ရောက်သွားလိုက်တာ၊ သိပ်မြန်တာဘဲ။ သိပ်မြန်တော့ စိတ်က ခုန်ဆွ ခုန်ဆွ သွားနေသလား၊ မဟုတ်ဘူး။ ဒီမှာ ဖြစ်ပျက်ပြီး နေယင်းက ဟိုမှာ အာရုံယူနိုင်တယ်။ ဆန်းလိုက်တဲ့ ဖြစ်ခြင်းကတော့ မပြောနဲ့တော့၊ မပြောနဲ့တော့။ မဟုတ်ဘူးလား ဆိုတော့ ကိုယ့်စိတ်ကို ကိုယ်ပြန်စဉ်းစားကြည့်လေ။ အဝေးအာရုံကို ယူနိုင်တယ် မယူနိုင်ဘူးဆိုတာ ကိုယ့်စိတ်ကို ကိုယ် ပြန်စဉ်းစားကြည့်လေ။ စိတ်ကူးနဲ့ ဘုရားဟောသွားတာ မဟုတ်ဘူး။ ကိုယ့်စိတ်ကို ကိုယ်ပြန်စဉ်းစားကြည့်ယင် "တော်တော်ဆန်းတဲ့ သဘောတရား တစ်မျိုးပါလား" လို့၊ ဒီလို သဘောပေါက်မယ်။

**ကုဋေတစ်သိန်း** ပြီးတော့ နှစ်ခုတွဲ မဖြစ်ဘူး။ လက်ဖျစ် **မက ဖြစ်ပျက်** တစ်ချက်တီးမှာ ကုဋေတစ်သိန်း တစ်ခု ပြီး တစ်ခု – တစ်ခုပြီး တစ်ခု – တစ်ခုပြီး တစ်ခု ဖြစ်နေတာဘဲ၊ ကုဋေတစ်သိန်းမကတဲ့ အဖြစ်အပျက် ဘယ်လောက်မြန်သလဲ၊ ဘာလဲ နောက်တော့ထပ်မေးနိုင် တယ်။ လက်ဖြောက် တစ်ချက်တီးမှာ ကုဋေတစ်သိန်းမက

http://www.dhammadownload.com



ဖြစ်ပျက်–ဖြစ်ပျက်– တစ်မျိုးစီ တစ်မျိုးစီ၊ တစ်ခုတည်းက ကုဋေ တစ်သိန်းမက ဖြစ်နေတာမဟုတ်ဘူး။ ဖြစ်ပျက်–ဖြစ်ပျက်–ဖြစ်ပျက်– ဖြစ်ပျက်။ သူဟာ အကောင်အထည် အရာဝတ္ထုမရှိ။ မျက်စိနဲ့မြင်လို့လည်း မရ။ မျက်စိနဲ့ မြင်ကောင်းတဲ့ အရာဝတ္ထုလည်း မဟုတ်ဘူး။ ဒါဖြင့် မရှိလို့လား–ရှိတယ်။ မနော့နဲ့ သူ ငါ့ကို မကောင်းကြံ နေတယ်။

**အထည်ကိုယ် မရှိ** သူ့ရဲ့စိတ်အစဉ်ဟာ ငါ့ကို မကောင်းကြံ နေတာ။ ဘာဖြစ်လို့တုံး၊ သူရဲ့စိတ်ဓာတ်ဟာ မျက်နှာမှာ ပေါ်နေတယ်။ သူနဲ့ငါ ကြာကြာစကားပြောယင် ရန်ဖြစ်ရလိမ့်မယ်၊ ရှောင်မှဘဲ။ ဟောဒါ သိတယ်။ မိမိတို့ ချစ်ခင်တဲ့သူချင်း စကားပြော လည်း မျက်နှာက ပြုံးလို့ဆိုတော့ အကောင်အထည်တော့ မရှိဘူး။ သူ့စိတ်ကိုတော့ဖြင့် မှန်းလို့ရတယ်။ ဒါက အလေ့အထများမှ။ အလေ့အထများမှ မှန်းလို့ရတယ်။ ဒါကြောင့် ဗုဒ္ဓမြတ်စွာက အထည်ကိုယ်တော့ မရှိဘူးတဲ့။ "မရှိသော ပစ္စည်းလား" လို့ ဆိုတော့ ရှိလိုက်တာမှ သေသေချာချာရှိ။ အဲဒါက ဗုဒ္ဓပွင့်တော်မူမှ သိလာ တာဖြစ်တော့ ဘုန်းကြီးတို့ကလေ ဗုဒ္ဓရဲ့ဉာဏ်တော် သိပ်ပြီးတော့ ကြီးတော်မူတာဘဲ။ မိမိတို့က နောက်က

http://www.dhammadownload.com



လိုက်တာတောင် ဗုဒ္ဓသိသလို အမီမလိုက်နိုင်ဘူး။ စာတွေကို အများကြီး လေ့လာနေတာတောင်မှ အမီမလိုက်နိုင်ဘူး။ ဒါမှန်းပြီးတော့ ဟုတ်တယ်၊ ဟုတ်လောက်တယ်။ ဒီလို... ဒီလို...ဒီလို မှန်းသွားရတယ်။

**ရုပ်ရဲ့ သဘော** စိတ်ရဲ့သဘောကို နည်းနည်းတော့ သိပြီနော်။ ရိပ်စားမိပြီနော်။ ဒီတော့ တစ်ခါ ရုပ်ရဲ့သဘောကို မေးဖို့ ကောင်းတယ်။ တော်တော် ကြာတော့ ရုပ်နဲ့စိတ်နဲ့ ရောလာမှာကိုး။ ရုပ်က ဘယ်လို သဘောတုံး။ ရုပ်ကျတော့ ခုနက စိတ်နဲ့ စာလို့ရှိယင် တော်တော်ထင်ရှားလာပြီ။ ကံကြောင့် ဖြစ်တဲ့ ရုပ်တဲ့၊ စိတ်ကြောင့် ဖြစ်တဲ့ရုပ်တဲ့။ ဥတုကြောင့် ဖြစ်တဲ့ရုပ်၊ အစာအာဟာရကြောင့် ဖြစ်တဲ့ရုပ်လို့ ဘုန်းကြီးတို့ ကိုယ်ထဲမှာ ရုပ်အမျိုးအစား လေးမျိုးရှိတယ်။ ဒီရုပ်က ရုပ်တစ်ခုလို့ ဆိုလိုက်ယင်ဘဲ အနည်းဆုံး ရုပ်ကလေးတွေ ရှစ်ခုလောက် ပေါင်းရတယ်။ ရှစ်ခုလောက် ပေါင်းတဲ့ဥစ္စာကို တစ်စု တစ်ကလာပ်လို့ ခေါ်တယ်။ ၉–ခုလောက် ပေါင်းတာ၊ ၁၀ – ခုလောက် ပေါင်းတာ၊ သူ့ဟာနဲ့သူ အမျိုးမျိုး အစားစားရှိတယ်။

**ဓာတ်ကြီး လေးပါး** ရုပ်ကျတော့ နည်းနည်း အထည်ကိုယ် ပေါ်လာပြီ။ ဘာဖြစ်လို့ပေါ်လာတုံးဆိုတော့

http://www.dhammadownload.com



ကာ ခုနက ရုပ်ရှစ်ခုထဲမှာဘဲ ပထဝီဓာတ်ဆိုတဲ့ မာမာ သဘောမျိုးလေး ရှိနေတယ်။ အာပေါဓာတ်၊ ရေက မှုန့်မှုန့်ကလေးတွေကို စုပေါင်းပြီး ဖွဲ့ထားသလို အဲဒီ အာပေါဓာတ်ကလည်း သူနဲ့တကွ ရုပ်မှုန့်ကလေး ရှစ်ခုကို တစ်တွဲဖြစ်အောင် စာသံပေသံအားဖြင့် တစ်ကလာပ်ဖြစ်အောင် ဖွဲ့။ သူက ဖွဲ့ပြီးတော့ ထားတယ်။ တေဇောဓာတ်တဲ့၊ အာပေါဓာတ်ကြောင့် ပျော့စိစိကြီး ဖြစ်မသွားအောင် သူက အငွေ့ကလေး။ အငွေ့ဓာတ်ကလေး၊ သေးသေးလေးပေါ့။ ပြောသာပြောနေရတာပါ။ သူတို့ကတော့ သေးသေးမှုန်မှုန် လေးတွေ။ ပြီးတော့ ဝါယောဓာတ်တဲ့။ ဒီရုပ်ရှစ်ခုကို တစ်ခုနှင့်တစ်ခု ဖိညှပ်ထောက်ကန်နေအောင်၊ ဒီဓာတ်ကြီး လေးပါးဆိုတာ ဒါပါဘဲ။ ပထဝီဓာတ်၊ အာပေါဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်။ အဲဒီဓာတ်ကြီး လေးပါးက ရုပ်ကလေးတွေကို ဖိညှပ်ပြီးတော့ နေတယ်၊ အကြားမှာ ဘာမှ မရှိဘူး။

**အဆင်း၊ အနံ့၊ အရသာ** သူတို့လေးခု ဖိညှပ်နေပြီးတော့ တစ်ခါ ဒီထဲမှာ အရာဝတ္ထုတော့ ခုနကလောက် ကြီးကြီးမားမား မရှိဘူး။ အဆင်းဓာတ် ပါလာတယ်။ ဒါကြောင့် အဆင်းတွေ မြင်နေရတာ။

http://www.dhammadownload.com



အနံ့ဓာတ်များရင်တော့ အုန်းကြီးတို့နှာခေါင်းနဲ့ ရတယ်၊ တော်တော်တန်ခိုးကြီးတဲ့ သူကဆိုယင် ဒီလောက် အနံ့ မများတောင် သင်းနေတဲ့အနံ့ ရတယ်။ အဲဒီ အနံ့ ဓာတ်ဆိုတဲ့အရာ ရှိတယ်။ ပြီးတော့ ရသဓာတ်ရှိတယ်။ ရေမှာလည်း ရေအလိုက် ရသဓာတ်ရှိတယ်။ ထမင်းမှာ လည်း ထမင်းအလိုက် ရသဓာတ်ရှိတယ်။

ဩဇာ ပြီးတော့ ဘယ်ပစ္စည်းမျိုးမဆို ဩဇာဆို တာ နောက်ဆုံး ကျောက်ခဲပင် ဝါးအုံး တော့၊ ဩဇာဟာ ရှိနေတာဘဲ။ ဒီဩဇာကို အဆီအနှစ်လို့ ဆိုတယ်။ ကျောက်ခဲလည်း ကျောက်ခဲ အလိုက် ဩဇာရှိတယ်။ ရေမှာလည်းဘဲ ရေအလိုက် ဩဇာဓာတ် ရှိတယ်။ ဒါကြောင့် တော်တော်လေး များများလေးကို မြီးကြည့်ယင် ဘယ်လိုအရသာရှိတယ်။ ခုနက ရသနဲ့ ဩဇာနဲ့၊ နောက်ဆုံးတော့ ဘုန်းကြီးတို့ ဘာမှ မစားနိုင်ဘူးဆိုယင် ရေသောက်နေယင်ဘဲ ရေရဲ့ ဩဇာက တော်တော် ကြာကြာ ခံသေးတယ်။ လူမမာဟာ ဆန်ပြုတ်၊ ကစီရည်ဆိုတဲ့ ဆန်ပြုတ်ကလေးကို အရည် ချည်းသက်သက် သောက်နေလည်းဘဲ ဩဇာဓာတ်ရှိလို့မို့ သူ့မှာ ရုပ်သစ်ကလေးတွေ ဖြစ်နေလို့မို့ အတော်ခံနိုင်တယ်။ ဆိုပါတော့ ရတ်တရက် မသေနိုင်ဘူး။ အဲဒီလို သတ္တိရှိတယ်။

http://www.dhammadownload.com



**ဓာတ်ကြီး လေးပါးရဲ့သတ္တိ** ဒီတော့ ရုပ်ဆိုတဲ့သဘောဟာ ဘယ်လိုတုံးလို့ဆိုယင် ခုနက ရုပ်ကလာပ်ကလေး တစ်ခုမှာ အနည်းဆုံး ရုပ်ရှစ်ခုရှိတယ်။ အမာခံရုပ်က–ပထဝီ–အာပေါ–တေဇော–ဝါယော–ပါဠိလို၊ မြန်မာလိုတော့ မြေဓာတ်၊ တင်စားပြောထားတာ။ ဘုရားမို့လို့ ပထဝီတို့ ဘာတို့ နာမည်တပ်နိုင်တာ။ အလွတ်ဆိုလို့ရှိယင် ဘုန်းကြီးလည်း ဒီနာမည် မတပ်နိုင်ဘူး။ ဗုဒ္ဓမြတ်စွာဘုရားက မြေကြီးကို ဥပမာပြောပြီးတော့ နည်းနည်းမာမာ ခိုင်ခန့်တဲ့ ဓာတ်တစ်ခုရှိတယ်။ ဒါကို ပထဝီဓာတ်၊ မြေကြီးမာနေတာလည်း ဒီဓာတ်တွေ များနေတာ။ ဒီဓာတ်တွေ များနေတော့ မြေကြီးဟာ ခိုင်ခိုင်မာမာနဲ့ နင်းလို့ခံနေတာ။ ကျောက်ခဲတွေ မာနေတာဟာလည်း ပထဝီဓာတ်။ သူ့သတ္တိ များနေတာ။ အဲဒီတော့ အဲဒါကို အကြောင်းပြုပြီးတော့ ဗုဒ္ဓမြတ်စွာက ပထဝီဓာတ် နာမည်တပ်ထားတယ်။ ပြီးတော့ အာပေါဓာတ်က ရုပ်ကလာပ်ရှစ်ခုရှိယင် ရှစ်ခုကို စုစည်းပြီးတော့ မုန့်မှုန့်ကလေး တွေကို ရေနဲ့လောင်းလိုက်တော့ တခါတည်း တွဲသွားသလိုဘဲ။ ဒီအာပေါဓာတ်ကြောင့် ရုပ်ကလေးတွေ တွဲသွားတာ။ တွဲတာမှ ပိညှပ်ပြီးတော့ နည်းနည်းမှ အကြားမရှိအောင် တွဲတာ။ ရုပ် ကလေးတွေကို အာပေါဓာတ်နဲ့ တွဲထားယင် စိုထိုင်းထိုင်းကြီး ဖြစ်နေမှာပေါ့ဆိုတော့ မဟုတ်ဘူး။

http://www.dhammadownload.com



တေဇောဓာတ်က အခိုးအငွေ့ ရှိနေပြန်ရော။ သူ့အလိုက်၊ သူ့အလိုက်။ ကလာပ်ဆိုလည်း သူ့အလိုက်၊ ဒီဟာတွေကို စိုထိုင်းမသွားအောင် အခိုးအငွေ့ကလေးတွေက ရှိနေပြန်ရော။ ဝါယောဓာတ်ကလည်း ပထဝီနဲ့ အာပေါဟာ မကွဲအောင် သူက တွန်းကန်ပြီးတော့ ထားသလိုဘဲ။ တစ်ခါတည်း ပိညပ်နေတဲ့ဥစ္စာ။ ဒီဝါယောရဲ့ သတ္တိကြောင့် ဖြစ်ပါတယ်။ ဒီတော့ ဓာတ်ကြီးလေးပါးလို့ ဒါ ခေါ်တာပေါ့။

**လေထဲမှာ** လောကကြီးထဲမှာ ကြီးကျယ်ပြီးနေတာ **မြေရေမီးဓာတ်ပါ** ဓာတ်ကြီးလေးပါးပါဘဲ၊ အဲဒီလို လောက ကြီးထဲမှာ ကြီးကျယ်ပြီးနေတဲ့ဓာတ်ကြီး လေးပါးဟာ ဒီထဲမှာဘဲ တစ်ခုစီ တစ်ခုစီထဲမှာလည်း သူတို့ အကြီးကျယ်ဆုံးဘဲ။ ဘာတုံး ပါဠိလို ပထဝီ- အာပေါ-တေဇော-ဝါယော-မြေဓာတ်၊ ရေဓာတ်၊ မီးဓာတ်၊ လေဓာတ်။ လောကကြီးထဲမှာလည်း ဒီဓာတ်ကြီးလေးပါး ကြီးကျယ် နေတာဘဲ။ ဒီဓာတ်ကြီးတွေက လွန်ကဲနေလို့ ဝါယောဆိုတဲ့ လေဓာတ်ထဲမှာလည်းဘဲ ပထဝီလည်းပါတယ်၊ အာပေါလည်းပါတယ်၊ တေဇောလည်းပါတယ်။ ဒါပေမယ့်လို့ ဝါယောဓာတ် လွန်ကဲတယ်။ ဒါကြောင့်လည်း အလှုပ် အရှားတွေ၊ ပြီးတော့ သူက တွန်းတွန်းပေးနေတာ မဟုတ် လား။ သစ်ပင်တစ်ပင်ကို သူကတွန်းပေးနေယင် သစ်ခက်

http://www.dhammadownload.com



တွေ တလှုပ်လှုပ်နဲ့။ ဒီအပေါ်က တိုက်နေတဲ့ လေထဲမှာ လည်း ဒီဓာတ်ကြီးလေးပါး ပါတယ်။ လေတိုက်ရာကို သူတို့ သတ္တိဆောင်နေကြတယ်။

**ရေထိလို့ ရပုံ** ပြီးတော့ ရေထဲမှာလည်း ပထဝီတို့ ပါတာဘဲ၊ ဒါကြောင့် ဘုန်းကြီးတို့ ထိလိုက်တယ်ဆိုယင် ရေကို ပုတ်လိုက်တယ်ဆိုယင် လက်နဲ့ ထိနိုင်တယ်။အာပေါကိုတော့ မထိနိုင်ဘူး၊ ပထဝီ တို့၊ တေဇော–ဝါယောတို့ပါလို့ထိတာ။ အာပေါချည်းဆိုယင် မထိနိုင်ဘူး။ ပြီးတော့ အဲဒီဓာတ်ထဲမှာ ရေထဲမှာ အာပေါ ဓာတ်လွန်ကဲ၊ လွန်ကဲဆိုတာ များတာမဟုတ်ဘူး။ ဓာတ်ကြီးလေးခုကတော့ လေးခုဘဲ နေရတယ်။ ဒါပေမယ့် သတ္တိသာနေတာ။ သတ္တိသာနေတော့ အရည်တွေ ဖြစ်ပြီး တော့ ပြန့်နေတယ်။

**တေဇောနှစ်မျိုး** မီးတောက်နေတဲ့မီး၊ ပူနေတဲ့ မီးထဲမှာ အခု ဘုန်းကြီးတို့ လက်တွေ ဘာတွေ နွေးလာ တယ်ဆိုယင် တေဇောက အားကောင်းလာ ပြီ။ တေဇောနှစ်မျိုးရှိတယ်။ ဒါတော့ သတိထားဖို့ လိုပြန် တယ်။ တေဇောက သီတတေဇော၊ အေးတဲ့တေဇော၊

http://www.dhammadownload.com



**ဟာ...** စိမ့်လို့ အေးလိုက်တာဆိုတော့ အဲဒီမှာ သီတတေဇော ပါတယ်။ တေဇော မပါမရှိဘူး။ ပါတယ်။ ပူလိုက်တာ ဆိုယင် ဥဏှတေဇော ပါတယ်။ တေဇောကတော့ ပါတော့ ပါတာချည့်ပဲ။ ဒီတော့ မြေဓာတ်၊ ရေဓာတ်၊ မီးဓာတ်၊ လေဓာတ်။ ရေထဲမှာလည်းရှိတယ်။ အာပေါဓာတ်က သတ္တိ လွန်ကဲတော့ ရေဖြစ်တယ်။ လေထဲမှာလည်း အဲဒီဓာတ်ကြီး လေးပါး ရှိတယ်။ ဝါယောဓာတ်က သတ္တိလွန်ကဲတော့ လေလို့ လူများ သမုတ်ထားတယ်။ မီးထဲမှာလည်း ဓာတ်ကြီး လေးပါးရှိတယ်။ ရှိပေမယ့်လို့ မီးလို့သမုတ်ထားလောက် အောင် တေဇောဓာတ်က လွန်ကဲနေတယ်။ အင်မတန် အေးစက်နေတဲ့ အခါမှာလည်း ဓာတ်ကြီးလေးပါးရှိတယ်။ ဒါပေမယ့်လို့ သီတတေဇောဓာတ် လွန်ကဲနေတော့ကာ "အင်မတန် အေးသွားတာ စိမ့်သွားတာဘဲ" လို့ ပြောကြတယ်။

**အဆင်းစသည်** ဒီတော့ ဓာတ်ကြီးလေးပါး အမာခံ ကြောင့် ရုပ်ကလာပ်တစ်ခု ဖြစ်တယ် ဆိုယင်ဘဲ ဘာပါလာတုံး။ အဆင်း ပါလာ တယ် ဝဏ္ဏ။ အနံ့ပါလာတယ် ဂန္ဓ။ အရသာပါတယ်။ မီးပေမယ့်လို့ အရသာပါတယ်။ ဒါပေမယ်လို့ ဒါရုပ်သစ်

http://www.dhammadownload.com



တစ်ခုဖြစ်တဲ့ အရသာမျိုးတော့ မဟုတ်ဘူးပေါ့။ ပြီးတော့ ဩဇာအဆီ ပါတယ်။ ဒီ–ခာတ်တိုင်း ခာတ်တိုင်းမှာ ဒီပြင် တစ်ခု ပိုလာလို့ရှိယင် ၉–ခု၊ နောက်နှစ်ခုလောက် ပိုလာ လို့ရှိယင် ၁၀–ခု။ ဒီလို နည်းနည်း နည်းနည်း တိုးသွားတယ်။

**အပြင်ဘက်ကရုပ်** ရုပ်ဆိုတာ ဘယ်လိုဟာလဲဆိုတော့ အဲဒီ ရုပ်တွေဟာ အပြင်ဘက်မှာတော့ ဥတုကြောင့် ဖြစ်တယ်။ ဒါပေမယ့် အပြင်ဘက်မှာ စိတ် လည်း မရှိဘူး။အစာလည်းမရှိဘူး။စားတဲ့အစာလည်းမရှိဘူး။ ကံလည်း သူတို့ အပြင်ဘက်မှာ မရှိဘူး။ သူတို့ကျတော့ ဥတုကြောင့်ဖြစ်တဲ့ ရုပ်ချည်းပဲ။ အကြောင်းတစ်ခုတည်းဘဲ ရှိတယ်။ ဘုန်းကြီးတို့ ကမ္ဘာမြေကြီး ဖြစ်နေတာကိုက ဥတုချည်းဘဲ။ ဥတုဇရုပ်ချည်းဘဲ။ ဒါပေမယ့်လို့ ဒီပေါ်မှာနေမယ့် သတ္တဝါ များရဲ့ကံ မကင်းဘူးတဲ့။ ကံမကင်းဘူးဆိုတာ သူ့ကို ပြုပြင်တဲ့ကံ မဟုတ်ဘူး။ သတ္တဝါတွေရဲ့ ကံအလိုက် ဟိုမှာ ဥတုဇရုပ်ဟာ ဖြစ်နေတယ်။ ဒါကြောင့် ကံအရင်းခံတဲ့ ဥတုဇရုပ်–ကမ္မပစ္စယဥတုဇရုပ်။ ဒီလို သမုတ်ထားတယ်။

**ကံကြောင့်ဖြစ်တဲ့ ရုပ်** ဒီတော့ ဘုန်းကြီးပြောတဲ့ ကံကြောင့် ဖြစ်တဲ့ရုပ်။ ဘုန်းကြီးတို့ လူမှာကျတော့

http://www.dhammadownload.com



သိပ်သိသာလာပြီ။ ဒါကို နားလည်ဖို့ သိပ်ကောင်းတယ်။ ဆက်မေးယင်လည်း မေးစရာ မေးခွန်းတွေ အင်မတန် ကောင်းတယ်။ ကံကြောင့် ဖြစ်တယ်ဆိုတာ ခုကံကြောင့် ဖြစ်တာမဟုတ်ဘူး။ ဟိုရှေးက ဆိုပါတော့လေ။ ဒီဘဝဖြင့် လည်း ဒီဘဝ ရှေးက၊ ဒါမှမဟုတ်ယင် ဒါထက်ကြာတဲ့ ရှေးက၊ ဘယ်လောက် ရှေးကတုံးဆိုယင်တော့ ဘယ်လောက် ရှေးဖြစ်ဖြစ်။ အလွန်ဝေးတဲ့ရှေးဖြစ်ဖြစ်၊ အဲဒီကံကြောင့် ဖြစ်တဲ့ ရုပ်ဟာ ဘုန်းကြီးတို့ရဲ့အမိဝမ်းထဲမှာ စကတည်းက ပထမဆုံးစဖြစ်တယ်။ ဘုန်းကြီးတို့ ပထမဆုံးစဖြစ်တဲ့ အခါမှာ ခုနက ရုပ်တွေဟာ ကလာပ်လို့ ပြောပြီနော်။ ကလာပ် ၃-ခု ပါတယ်။ ဒီရုပ် အမိဝမ်းထဲမှာ စပြီးတော့ ဖြစ်ကတည်းကိုက ဘာကြောင့်ဖြစ်တုံးဆိုလို့ရှိယင် မိဘ တို့ရဲ့ သွေးသားတော့ အခြေခံတယ်။ များသောအားဖြင့် သွေးသားအခြေခံပြီးတော့။ များသောအားဖြင့် ဆိုတာ တစ်ခါတစ်ခါ သွေးသားမပါဘဲ ကံကြောင့် ရုပ်က ဖြစ်နေတယ်။

**အမိဝမ်းထဲ ရုပ်စဖြစ်ပုံ** သွေးသားအခြေခံပြီးတော့ ကံကြောင့် ဖြစ်တဲ့ရုပ်ကလေး အမိဝမ်းထဲ သားအိမ်မှာ စပြီဆိုကြစို့။ စတော့ ဘာရုပ်တွေတုံးလို့ ဆိုတော့ ကိုယ့်ကလေးဖြစ်ဖို့ရန် ကိုယ့်ရဲ့မူရင်း ကာယ၊

http://www.dhammadownload.com



သူက ရုပ်ဆယ်ခု ဖြစ်သွားတယ်။ ကာယ–ဒသကကလာပ်၊ ဒါကြောင့် ကိုယ်ကလေးဟာ နောက်ကြီးထွားလာတယ်။ ရုပ်တွေက ပွား–ပွား–ပွား–ပွားလာပြီး ကြီးထွားလာမယ်။ ကာယ–ဒသက ကလာပ် ပထမဆုံး။ ပြီးတော့ ဖြစ်တဲ့ စိတ်ရဲ့ အခြေခံ အကြောင်းခံဖို့ရန် ခုနက ဟဒယမှာ ဖြစ်တယ်လို့ ပြောတယ်မဟုတ်လား။ ဟဒယမှာ တည်တယ်လို့ ပြောတာ။ အဲဒီ ဟဒယဝတ္ထုဆိုတဲ့ ဝတ္ထုဒသက ကလာပ် ။ ပြီးတော့ ယောကျ်ားဖြစ်မယ့်သူမှာ ပုရိသဘာဝ ရုပ်ကလာပ်၊ မိန်းမဖြစ်မယ့်သူမှာ ဣတ္ထိဘာဝ ရုပ်ကလာပ်။ ဒီကလာပ်သုံးစည်း စထားတယ်။ အဲဒါကြောင့် ဒီကလာပ်သုံးစည်းဟာ နောက်တော့ ထပ်–ထပ်–ထပ်–ထပ်– ထပ်ဖြစ်လာတော့ ကာယကလည်း ကြီးလာတယ်။ ပြီးတော့ ဝတ္ထုဒသကကလည်း စိတ်ဖြစ်တိုင်း ဖြစ်တိုင်း သူ့ကို မှီပြီးတော့ ဖြစ်နေရတယ်။ ဣတ္ထိဘာဝ ရုပ်ကလည်း တဖြည်းဖြည်း ကြီးလာတယ်။ ဘာဝရုပ်ဆိုတဲ့ဥစ္စာ ပြောပါရစေတော့၊ ယောကျ်ားအင်္ဂါ မိန်းမအင်္ဂါ မဟုတ်ဘူး။ ပဋိသန္ဓေနေတုန်းက ယောကျ်ားအင်္ဂါ မိန်းမအင်္ဂါ ဘာမှ မဆိုင်သေးဘူး။ ဘာမှ မဖြစ်သေးဘူး။ ဘာမှ မဖြစ်ပေမယ့် လို့ အဲဒီအင်္ဂါချင်း မတူဖို့ရန် အကြောင်းဖြစ်တဲ့ ဘာဝရုပ်က ဖြစ်လာတယ်။ အဲဒါ ဘာကြောင့် ဖြစ်ရသလဲ။ ရှေးကံကြောင့် ဖြစ်တယ်။

3(A)

http://www.dhammadownload.com



**ကံချင်းကွဲလာ** ရှေးကံက ကောင်းလာလို့ရှိယင် ရှေးကံ ကောင်းသလောက် ရုပ်ကလေးတွေ ကောင်းကောင်း ကောင်းကောင်း သွားမယ်။ ကံကလည်း အချိန်ရှိသရွေ့ လိုက်ဖြစ်တယ်။ ဟိုနားတင် တစ်ခါတည်း ဖြစ်ပြီး သွားပေတော့ ဒီလို မဟုတ်ဘူး။ နောက်လည်း ကံကြောင့် ဒီလို ရုပ်ကလေးတွေ ဖြစ်တယ်။ ဒါကြောင့် ယောကျ်ား မိန်းမကွဲဖို့ရန် မတူဖို့ရန် ပဋိသန္ဓေ စကတည်းက ရုပ်ကလာပ်လေး သုံးခု စကတည်းက ကွဲပြီးသား ဖြစ်နေပြီ။ ပြီးတော့ ရုပ်ကလေးတွေဟာ ကံကောင်းလို့ရှိယင် အဲဒီထဲကိုက ကောင်းကောင်း ရုပ်ကလေးတွေ ဖြစ်တယ်။ ဒီတော့ ၃–ကလာပ်တော့ ၃–ကလာပ်ပဲ။ ကံမကောင်းလို့ ရှိယင် နည်းနည်းကလေးညံ့တဲ့ ရုပ်ကလာပ်ကလေးတွေ ဖြစ်တယ်။ ဒီထဲကိုက တစ်ယောက် နဲ့ တစ်ယောက်က ရှေးကံက ကွဲတော့ကာ၊ ရုပ်တွေ ကြီးလာတဲ့အခါကျတော့ အရာဝတ္ထု ပေါ်လာတဲ့အခါကျတော့ သူ့ရုပ်ကချောတယ်၊ သူ့ရုပ်က ဆိုးတယ်။ ဒီဟာ သမုတ်ကြတာ။ အမှန်တော့ ဟိုကံက စပြီးတော့ အခြေခံ ကွဲလာခဲ့ကြတာ။

**သချ်ာနည်းနဲ့ တွက်ကြည့်** ပြီးတော ခုနလက်ဖြောက် တစ်ချက်တီးမှာ စိတ်က ကုဋေ **တစ်သိန်းမက ဖြစ်တယ်လို့ဆိုတာ** ရုပ်က နှေးတယ်မဟုတ်

http://www.dhammadownload.com



လား။ လက်ဖြောက်တစ်ချက်တီး ကုဋေတစ်သိန်းမက ဖြစ်တယ်။ စိတ်တစ်ဆယ့်ခုနှစ်ချက်မှာ ရုပ်တစ်ခါဖြစ်တယ် ဆိုတော့ သင်္ချာနည်းနဲ့ တွက်ကြည့်လို့ရှိယင် ရုပ်က လက်ဖြောက်တစ်ချက်တီးမှာ ဘယ်လောက်ဖြစ်နိုင်တယ် တွက်ကြည့်ယင် ရမယ်။ သင်္ချာ နည်းနဲ့ ဘုန်းကြီးက မတွက်တတ်ဘူး။ မတွက်တတ်တော့ မတွက်တတ်တဲ့ အတိုင်းဘဲ မှတ်ထားလိုက်တယ်။ လက်ဖြောက်တစ်ချက် တီးမှာ ရုပ်ပေါင်း ဘယ်လောက် ဖြစ်တယ်လို့တော့ ဘုန်းကြီး မပြောနိုင်ဘူး။ မပြောနိုင် ပေမယ့်လို့ အဲဒီ ရုပ်တွေ ဟာလည်း အင်မတန် မြန်မြန် ဖြစ်တာဘဲ။

**ဖြစ်တိုင်းတော့ ပျက်တယ်** ဖြစ်ပြီးတော့ မပျက်ဘူးလား ဆိုတော့ ပျက်တယ်၊ ပျက်တဲ့ ရုပ်က ပထမဆုံး မမွေးခင်ရော၊ လူကြီး မဖြစ်ခင်ရော၊ ပျက်တဲ့ရုပ်က နည်းတယ်။ နောက်ထပ်ကံကြောင့် ဖြစ်တဲ့ ရုပ်သစ်တွေက များတယ်၊ ဖြစ်တိုင်းတော့ ပျက်တယ်။ ဖြစ်တိုင်းပျက်ပေမယ့်လို့ ကံကြောင့် တိုးတိုးလာတယ်၊ ဒါကြောင့် ကြီးကို ကြီးရတယ်။ ကြီးတော့လည်း ကံအလိုက် ဘဲ။ နောက်တော့ အထည်ကိုယ် ပေါ်တဲ့အခါကျတော့ ချောတယ် မချောဘူး။ ဒီလိုကွဲလာတယ်။

http://www.dhammadownload.com



**ဥတုခေါ်တဲ့အငွေ့** ပြီးတော့ တစ်ခါ ပဋိသန္ဓေတည်တုန်းက ဖြစ်တဲ့ ရုပ်ကလာပ် ၃ စည်းထဲမှာ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော ပါတယ် မဟုတ်လား။ ပါတယ်။ အဲဒီတော့ တေဇောကို ဘာလို့ ခေါ်တုံးဆိုတော့ ဥတုလို့ ခေါ်တယ်။ အငွေ့ကို ဥတုလို့ ခေါ်တယ်။ ဥတုလို့ခေါ်တော့ အဲဒီဥတုက ပဋိသန္ဓေတည်ပြီးလို့ ပဋိသန္ဓေစိတ်ရဲ့ သုံးဖို့တစ်ဖို့လွန်သွားယင်လည်း ဥတုက ရုပ်သစ်ကို ဖြစ်စေတော့ ဥတုဇရုပ်ကလည်း ဒီခန္ဓာကိုယ်ထဲမှာ တွဲရက်တွဲရက်။ စိတ်တိုင်း စိတ်တိုင်းမှာ ခုနကပြောတဲ့ ဘုန်းကြီးတို့စာက ဋ္ဌီခဏကို ရောက်တယ်။ အဲဒီရောက်လို့ရှိယင် ရုပ်သစ်တွေ၊ ဥတုဇရုပ်က တိုးရက် တိုးရက်၊ ကမ္မဇရုပ်ကလည်း တိုးတယ်၊ အသစ်နော်။ အဟောင်းလည်း ပျက်တယ်။ ပျက်ပေမယ့်လို့ အတိုးများတယ်။ အနုတ်က နည်းတယ်ပေါ့လေ။ အဖြစ်တွေက များလာတယ်။ ခန္ဓာကိုယ်လေးက ကြီးကြီး ကြီးကြီးလာတယ်။

**လူ့ခန္ဓာဖြစ်စဉ်** တစ်ခါဒီထဲမှာ စိတ်က ပဋိသန္ဓေစိတ် ဆိုတာ စိတ်ပါလာပြီ။ ပဋိသန္ဓေစိတ် နောင် အဲဒီစိတ်ကို ခုနက ဘုန်းကြီးတို့ "ဘဝင်စိတ်" လို့ ခေါ်တယ်။ အဲဒီလောက် စပြီးတော့ စိတ်ကြောင့်ဖြစ်တဲ့ ရုပ်ကလည်း ဖြစ်လာပြီ။ အမေက အစာစားလိုက်တဲ့အခါမှာ

http://www.dhammadownload.com



ကလေးကိုယ်ထည်မှာ မထိနိုင်သေးဘူး။ အင်မတန် သေးနေသေးတယ်။ ပထမ ၇ ရက် ဟာ ဘယ်လောက် ဖြစ်တုံးဆိုတော့ ရေကြည်ကလေးပါဘဲ။ အရေကြည် ကလေးဘဲ ရှိသေးတယ်။ အရာဝတ္ထု မပေါ်သေးဘူး။ ဒုတိယ ၇–ရက်ကျတော့ အဲဒီ အရေကြည့်လေးဟာ အမြှုပ်ပွက်လေး ဖြစ်လာတယ်။ တတိယ ၇–ရက်ကျတော့ အသားပျော့ပျော့ကလေး ဖြစ်လာတယ်။ ပြီးတော့ စတုတ္ထ ၇–ရက်ကျတော့ အဲဒီအသားပျော့ကလေးဟာ မာလာတယ် ဆိုပါတော့။ အဲဒီလိုဘဲ တဖြည်းဖြည်း လူအကောင် အထည် ကလေးတွေ ပေါ်လာတော့မယ်။ ဒုတိယ ခုနစ်ရက်လောက် လွန်ယင်ဘဲ အမေက စားတဲ့အစာက သူ့ငယ်ရဲ့ချက်ကြိုး တွေနဲ့ ဆက်သွယ်ပြီးတော့ အဲဒီအစာရဲ့ အဆီတွေ ဩဇာတွေ ပြန့်တဲ့အခါမှာ ကလေးရဲ့ကိုယ်ကို လာထိတယ်။ ခုနစ်ရက် နှစ်ပါတ်လောက်လွန်လာတော့ ကိုယ်တို့ဘာတို့က ပေါ် လာပြီး အဲဒီ လာထိတယ်။ အဲဒီ ထိတဲ့အခါမှာ ကလေးမှာ ဩဇာပြန့်သွားတယ်။ အဲဒီ ဩဇာကြောင့် ရုပ်ဖြစ်တယ်။ ဒါကို အာဟာရဇရုပ်လို့ ခေါ်တယ်။

**ဗုဒ္ဓက အသေးစိတ်ဟော** အဲဒီတော့ ကံကြောင့်ဖြစ်တဲ့ရုပ်၊ စိတ်ကြောင့်ဖြစ်တဲ့ရုပ်၊ ဥတု ကြောင့်ဖြစ်တဲ့ရုပ်၊ အာဟာရကြောင့် ဖြစ်တဲ့ရုပ် ရုပ်လေးမျိုး သူ့မှာစုံလာပြီ။ နှစ်သတ္တာဟလောက် ကျော်ယင်ဘဲ

http://www.dhammadownload.com



စုံလာပြီ။ အဲဒီရုပ်တွေ ထွားထွား ထွားထွား ကြီး ကြီး ကြီးကြီးလာလိုက်တဲ့ဥစ္စာ၊ နောက်တော့ ဒေါက်တာတို့ မွေးရတဲ့အချိန်မှာ ခုနက လူကလေးဖြစ်လာအောင် ဘယ်အချိန်မှာ လက်တွေ၊ ဘယ်အချိန်မှာ ခြေတွေ၊ ဘယ် အချိန်မှာ ဆံ၊ ဘယ်အချိန်မှာ ဘာဖြစ်တယ်ဆိုတာ အသေး စိတ်လည်းဘဲ ဗုဒ္ဓက ဟောတယ်။ ဒေါက်တာတို့ရဲ့ မှတ်တမ်း မှာလည်း အသေးစိတ်ရှိတယ်။ အဲဒါ နောက် မွေးဖွားလာ တော့ ဒီလိုရုပ်တွေ တိုးတာနဲ့မို့လို့ လူပုံကလေး သေသေ ချာချာ ဖြစ်လာတယ်။

**စိတ်ကသိတာ** အဲဒီလူပုံကလေးမှာ နာတယ် ကျင်တယ် ဆိုတာ စိတ်ကသိတာ။ ရုပ်ကမသိဘူး။ စိတ်ကသိတော့ကို အဲဒီအချိန်မှာဘဲ နာတယ်။ မနာဘူး။ ဖွားစကလေးလေးကို ခုနက အရေးတယူ ပြုပြင်တတ်တဲ့သူက နူးညံ့တဲ့ အဝတ်စကလေးနဲ့ ကိုင်တယ်။ ကလေးလေးက မငိုဘူး။ ကြမ်းတဲ့အဝတ်စကလေးနဲ့ ကိုင်တယ်။ ကလေး လေး နည်းနည်းနာတယ်။ အဲဒီမှာ နာတယ်ဆိုတာက သူ့ကို အကြောင်းပြုပြီးတော့ စိတ်ကသိတာ။ စိတ်ကသိပြီး တော့ ငိုတယ်။

**ပညာရှိမျက်စိနဲ့ ကြည့်တော့** ဒီတော့ကာ ကံကစပြီးတော့ ဖြစ်လာတာ ဖြစ်တော့ လူတွေဟာပေါ့လေ ဘယ်

http://www.dhammadownload.com



နည်းနဲ့မှ ပုံမတူဘူး။ ပြီးတော့ တစ်မိထဲမွေး၊ အမွှာမွေး တောင်မှ အရုပ်မြင်တော့ တူပါတယ်။ ပညာရှိတဲ့ သူရဲ့မျက်စိနဲ့ ကြည့်တော့ မတူဘူး။ ဒါကြောင့် အချို့ သက်ဆိုးရှည်လို့ရှိယင် တချို့က နည်းနည်းကလေး ထွားတယ်။ တချို့က နည်းနည်းကလေး ပုတယ်။ အဲဒီကျမှ အရုပ်ကမြင်တယ်။ ဒေါက်တာတို့က စောစောကတည်းက သိတယ်။ ဘယ်သူက စမ်းကြည့်လိုက်လို့ရှိယင် အသက် လည်းရှည်ဖို့ မရှိဘူး။ ကိုယ့်ပညာနဲ့ တရားတော်ကလည်း စမ်းကြည့်လိုက်ယင် အသက်ရှည်ဖို့ မရှိဘူးဆိုတာ ကံကကို ပါလာပြီ။ ဘယ်သူကတော့ စမ်းကြည့်လိုက်ယင် သူက အသက် ရှည်စရာရှိတယ်။

**နာမည်ကြီး** တလောတုံးက အင်မတန် နာမည်ကြီးတဲ့ **အမွှာပူး** အမွှာလေးတွေကို ခွဲတယ်၊ နှစ်ယောက် စလုံး ရှင်ဖို့ အသက်ရှည်ဖို့ မလွယ်ဘူး ဆိုတော့ တစ်ယောက်ကို နည်းနည်း ဦးစားပေး လိုက်တယ်။ အဲဒီတစ်ယောက် ဦးစားပေးလိုက်တာ တစ်ယောက်ကံက ကောင်းတယ်။ တစ်ယောက်ကံက မကောင်း။ ဒီလိုဖြစ် လာတယ်။ အဲဒီတော့ တစ်ယောက်ဟာ သိပ်ကြာကြာကြီး အသက်မရှည်ဘဲနဲ့ ဆုံးရတယ်။ သိပ်ကံစွမ်းလွန်းလို့။ ဘုန်းကြီးကလေ ခုဒါကြောင့် အားတက် သရော ပြောနေတာ။

http://www.dhammadownload.com



အားလုံးပေါ့လေ။ မေးစမ်းပါလို့ ဘုန်းကြီးက သိစေချင်လွန်းလို့ ပြောနေတာ။ ဘုန်းကြီး ဒီလောကသိလို့ရှိယင် ဗုဒ္ဓမြတ်စွာ ဘယ်လောက် သိတော် မူထားမလဲဆိုတာ စဉ်းစားပြီး ကြည့်ပါ။

**အမွှာမွေး တောင်မှ မတူ** အဲဒီလို အမွှာမွေးတောင်မှ မတူလို့မို့ အပြင်ဘက်ရောက်တဲ့ အခါကျတော့ အသက် ရှည်တယ်၊ အသက် တိုတယ်။ တစ်ခါ သူက အသားလေး နည်းနည်းဖြူတယ်။ သူက အသားလေးနည်းနည်းမည်းတယ်၊ တစ်မအေတည်းမွေးတာ၊ တစ်ဥတုတည်း တစ်နေရာမှာ အကုန်လုံး အတူတူပြုတာ။ သူက အသားကလေး နည်းနည်းလေးလတ်တယ်။ သူက အသားကလေး နည်းနည်းညိုတယ်။ ဒီမှာ ကံက မှုတည် ပြီးတော့ ကွဲပြန်တာ။ ပြီးတော့ တော်တော်ကလေး ကြီးတဲ့အခါကျတော့ အင်း... သူက စိတ်သဘော ကောင်းလိုက်တာ။ သူက စိတ်သဘော မကောင်း လိုက်တာ။ ရှေးကံက ဒီမှာ ဘုန်းကြီးတို့ ပဋ္ဌာန်းပစ္စည်းနဲ့ ကျေးဇူးပြုနေတာ။ တစ်ယောက်က စိတ်သဘော ကောင်း လိုက်တာ။ တစ်ယောက်က မကောင်းလိုက်တာ။ ပညာ သင်ကြတော့ တစ်ယောက်က ဗတ်လွယ်လိုက်တာ။ ဒီတစ်ယောက်ကတော့ တတ်ခဲလိုက်တာ။ ဆရာအတူတူ၊

http://www.dhammadownload.com



အမေအတူတူ၊ ပတ်ဝန်းကျင် အတူတူ။ ရှေးကံက မတူလို့ ဒီလိုကွဲလာတယ်။ တစ်မအေတည်း တစ်ဖအေတည်း မွေးပေမယ့်လို့ ကံချင်းမတူဘူး။ ကိုယ့်ကံနဲ့ ကိုယ်နဲ့ ကိုယ့်ရုပ်တွေက ဖြစ်လာတာ။ ကိုယ့်စိတ်တွေက ကိုယ့်ကံနဲ့ ကိုယ်နဲ့ ဖြစ်လာတာ။ အဲဒါကြောင့် မတူတာဘဲဆိုပြီးတော့ ဘုန်းကြီးတို့ကလေ သိပ်ပြီးတော့ ဝမ်းမြောက်ဝမ်းသာ အားရပါးရနဲ့။

**သိလို့ကျန်းမာရေး** ဒါကြောင့် ကျန်းမာရေးကို ဘုန်းကြီး **လိုက်စား** စွမ်းနိုင်သမျှ လိုက်စားတယ်ဆိုတဲ့ ဥစ္စာ။ ကံကြောင့် ဖြစ်တာ၊ စိတ်ကြောင့် ဖြစ်တာ၊ ဥတုကြောင့် ဖြစ်တာ၊ အာဟာရကြောင့် ဖြစ်တာ။ ဘုန်းကြီးက သိတော့လေ ဆိုပါတော့ ဒေါက်တာတို့က 'အရှင်ဘုရား ဒါတော့ မတည့်ဘူး' ဆိုယင် ဘုန်းကြီးက မစားဘူး။ ဒါနဲ့ သိပ်တည့်တာဘဲ။ ဒီဆေး သိပ်တည့်တာဘဲ။ ဒါကို စားတယ်။ ဘာဖြစ်လို့လဲဆိုတော့၊ ဥတုကြောင့် ဖြစ်တယ်ဆိုတာ အစာဆိုတဲ့ဥစ္စာ၊ အာဟာရကြောင့် ဖြစ်တယ်ဆိုတဲ့ဥစ္စာ၊ ဘုန်းကြီးက သိတယ်မဟုတ်လား။ အဲဒါကြောင့် ဘုန်းကြီးဟာ ကံ–စိတ်–ဥတု–အာဟာရ ကြောင့် ဖြစ်တယ်ဆိုတဲ့ ရုပ်ကို လိုက်စားနေလို့မို့ တော်တော်များများကြီး ကျန်းမာနေတာ။

http://www.dhammadownload.com



**စိတ်ကြောင့်** နားလည်ပြီနော်။ ရုပ် ဘယ်လို သဘော **မျက်နှာပြောင်း** ရှိတယ်။ ဘာကြောင့် ဖြစ်တယ်။ ကံ ကြောင့် ဖြစ်တယ်။ စိတ်ကြောင့် ဖြစ်တယ်။ ကံကြောင့် ဖြစ်တယ်ဆိုတာ ခုနက ကွဲသွားတာတွေ သိပြီနော်။ စိတ်ကြောင့်ဖြစ်တယ် ဆိုတာဟာ အမှတ်တမဲ့တော့ မသိဘူး။ အင်မတန်ချစ်ခင်တဲ့ သမီးခင်ပွန်းချင်း စကားပြောနေတာတောင်မှ မတည့်တဲ့ စကားပြောလိုက်လို့ ရှိယင် တစ်ခါတည်း မျက်နှာပြောင်းသွားတာဘဲ။ ဘာကြောင့် ပြောင်းတုံး။ စိတ်ကြောင့်ဖြစ်တဲ့ ရုပ်တွေ ပြောင်းသွားတာ။ စိတ်ကြောင့်ဖြစ်တဲ့ ရုပ်တွေ ပြောင်းသွားတော့ တစ်ခါတည်း မျက်နှာတွေက မကျေမနပ်ကြီးဖြစ်သွားတဲ့ လက္ခဏာတွေ။ မျက်နှာတွေနီလို့ ဖြစ်လာတယ်။

**နောက်တော့** နောက်တော့ ဒါမဟုတ်ဘူး၊ ဒါပြောမှား **မျက်နှာကြည်လာ** လို့ပါ၊ ဘယ်လိုပါလို့ လိမ္မာတဲ့သူက ဖြေလိုက်တော့ ဒီမျက်နှာဘဲ ချက်ချင်းပြောင်းသွားတယ်။ ဘယ်သူပြောင်းတာတုံး။ ကံမပြောင်းဘူး။ စိတ်ပြောင်းသွားတာ။ စိတ်ပြောင်းသွားတော့ စိတ်ကြောင့် ဖြစ်လာတဲ့ရုပ်တွေဟာ တစ်ခါတည်း ဒီမှာ ချက်ချင်းပေါ်လာတယ်။ ဒါကြောင့် ရုပ်တွေ အလွန်မြန်တယ်။ ဘာဖြစ်လို့တုံး။ **တစ်ယောက် တစ်ယောက်**

http://www.dhammadownload.com



စကားပြောလို့မှ မဆုံးသေးဘူး။ ဒေါသဖြစ်တယ်ဆိုယင် ဒေါသရုပ်တွေ။ တစ်ကိုယ်လုံးဘဲ ပြောင်းတာဘဲ။ တစ်ကိုယ်လုံး ပြောင်းတယ်ဆိုတော့ မျက်နှာကမြင်ရလို့ မျက်နှာ ပြောင်းတယ်လို့ ပြောရတာ။ ချော့ချော့မော့မော့နဲ့ တောင်းတောင်းပန်ပန် ဆိုယင်လည်း မျက်နှာကြည်လာတယ်။ တစ်ကိုယ်လုံးကြည်လာတယ်၊ ရုပ်ပြောင်းသွားတာ ရုပ်ပြောင်းသွားတာ။

**နေထိုင်မကောင်းယင်** ဘုန်းကြီးတို့က သိလို့မို့လေ၊ တစ်ယောက် တစ်ယောက် နေထိုင်မကောင်းလို့ရှိယင် စိတ်မချမ်းသာအောင် မပြောပါနဲ့။ မချမ်းသာတဲ့ရုပ်တွေ သူ့မှာ ဖြစ်မှာစိုးလို့ စိတ်မချမ်းသာအောင် မပြောပါနဲ့။ စိတ်ချမ်းသာအောင် ပြောပါ။ ရုပ်ကောင်းတွေ ဖြစ်နေလို့ရှိယင် သူ့ကျန်းမာရေးဟာ နည်းနည်းနီးစပ်လို့၊ သို့မဟုတ် အသက်ရှည်ဖို့များလို့၊ စိတ်ချမ်းသာအောင် ပြောပါ။ စိတ္တဇရုပ်တွေကို ပြင်နေတာ။ မတည့်တဲ့အစာ မစားနဲ့နော်။ မတည့်တဲ့အစာကို စားလိုက်လို့ရှိယင် ချက်ချင်းရောဂါတိုးလာတယ်။ လူမမာဟာ သိပ်သိသာတယ်။ လူကောင်းမှာ သိပ်မသိသာဘူး ဆိုပေမယ့် တစ်ခါ မတည့်တဲ့အစာကို စားလိုက်လို့ရှိယင် ချက်ချင်း ရောဂါတိုး သလိုဘဲ။ တည့်တဲ့အစာနဲ့ တည့်တဲ့ဆေးနဲ့

http://www.dhammadownload.com



ပေးလိုက်လို့ရှိယင် မနက်က တော်တော်ညှိုးနေတာ အခု လန်းလို့ပါလား။ ခုနက အာဟာရဇရုပ်တွေ ပြောင်းလာတာ။ အင်မတန် သိထိုက်ပါတယ်လို့။

**ဘယ်ဘာသာဘဲ** ကိုးကွယ်တဲ့ ဘာသာအနေမျိုးနဲ့ မသိ **ကိုးကွယ်ကိုးကွယ်** ချင်နေပါ။ ပညာတစ်ရပ်အနေမျိုးနဲ့ သိပ်သိသင့်တဲ့ ဘာသာပါလို့။ ပညာ တစ်ရပ် အနေမျိုးနဲ့တော့ သိပ်သိသင့်တယ်။ ဘယ်-ဘာသာဘဲ ကိုးကွယ် ကိုးကွယ်၊ မတော်မတရား မလုပ်နဲ့၊ ဘုန်းကြီးဝါဒက။ ဘာဖြစ်လို့တုံး၊ မတော်မတရား လုပ်လို့ရှိယင် ဘယ်ဘာသာကမှ ကောင်းတယ်လို့ မပြော ဘူး။ တရားသဖြင့်သာ လုပ်လို့ရှိယင် ဘာသာတိုင်းက ကောင်းတယ်လို့ ပြောတယ်။ တစ်ခါတုံးက ဘုန်းကြီးတို့ မြတ်စွာဘုရားလက်ထက်တော်မှာ တိတ္ထိဆရာကြီးတွေရဲ့ တပည့်တချို့ နတ်ဖြစ်နေတယ်။ နတ်ဖြစ်နေတော့ သူတို့ ကတော့ ဆရာကြီးတွေက ဆုံးမလို့ နတ်ဖြစ်တယ်လို့ ယူဆတယ်၊ အမှန်က မဟုတ်ဘူး။ ဆရာကြီးတွေက အမှားတွေကို ဟောပြောနေပေမယ့် သူတို့ က ဒီအမှားတွေကို ယုံတာတော့ယုံတာ တခြားဘဲ။ လုပ်တော့ အကောင်းတွေကို လုပ်နေတယ် မဟုတ်ဘူးလား။ သူများရဲ့ အကျိုးရှိအောင် လုပ်တယ်။ တိတ္ထိဆရာကြီးရဲ့ တပည့် ဖြစ်ပေမယ့်

http://www.dhammadownload.com



သူများအကျိုးရှိအောင် လုပ်တယ်။ လိမ်လိမ် ကောက်ကောက် ဘယ်တော့မှ မလုပ်ဘူး။ အဲဒီလို ကောင်းတာတွေလုပ်လို့ သူတို့က နတ်ဖြစ်တယ်။ သူတို့ကတော့ သူတို့ဆရာကြီး တရားကြောင့် ဖြစ်သွားကြတယ်လို့ ထင်တယ်။ အမှန်က တော့ ကောင်းတာ လုပ်လို့။ ဒါကြောင့် ကောင်းတာ လုပ်ယင် ဘယ်ဘာသာဘဲဖြစ်ဖြစ် သုဂတိဘဝ ရောက်ဖို့ ချည်းဘဲ။

**မကိုးကွယ်ချင် နေပါ** သို့သော်လည်း ဗုဒ္ဓမြတ်စွာဘုရားက လမ်းဆုံးအထိ နိဗ္ဗာန်အထိ ရောက်သွားနိုင်လို့၊ နိဗ္ဗာန်အထိ ကျင့်လမ်းရှိနေလို့မို့ ဗုဒ္ဓမြတ်စွာရဲ့ တရားတော်ကို လိုက်စားယင် ကောင်းတယ် လို့ ပြောနေကြတာ။ ဟိုကတော့ နိဗ္ဗာန်ဆိုတာလည်း သိပ်ပြီးတော့ မပြောနိုင်ဘူး။ နိဗ္ဗာန်ကိုရောက်ကြောင်းဖြစ်တဲ့ တရားအကျင့်လည်း မရှိဘူး။ ဒီလိုကွာနေတယ်။ ယခု ဘုန်းကြီး အသေးစိတ် ကံကြောင့်-စိတ်ကြောင့်-ဥတုကြောင့်-အာဟာရကြောင့် ဖြစ်တယ်ဆိုတဲ့ ရုပ်တွေ ပြောနေသလို လည်း သူတို့က ဟောပြောချက်တော့ မရှိဘူး၊ ဒါကြောင့် ဘာသာတရားအနေနဲ့ မကိုးကွယ်ချင်နေ၊ ပညာ တစ်ရပ် အနေနဲ့ သိပ်လိုက်စားထိုက်တဲ့ ဘာသာပါလို့။ ပညာတစ်ရပ် အနေနဲ့ လိုက်စားလို့ သဘောပေါက်တော့လည်း ဘာသာကို

http://www.dhammadownload.com



မယုံကြည်ဘဲ **နေပါ**တော့မလား။ ယုံကြည်တော့မှာပေါ့။ အဲဒီတော့ ဘုန်းကြီးက လိုက်စားကြပါ ပညာ တစ်ရပ်အနေနဲ့။ အခု စိတ်အကြောင်းလည်း နည်းနည်း ရိပ်စားမိပြီနော်။ ရုပ်အကြောင်းလည်းဘဲ နည်းနည်း ရိပ်စားမိပြီနော်။

## မေးခွန်း (၂)

**မေး**။ ။ ရုပ်ဖြစ်တဲ့အချိန်နဲ့ စိတ်ဖြစ်တဲ့အချိန်မှာ အဆပေါင်းများစွာ လျင်မြန်တယ်လို့ ဆိုပါတယ်။ စိတ်ဖြစ်ပျက်ပုံကို ထင်ရှားအောင် ရှင်းပြပါ။

**ဖြေ**။ ။ ဒေါက်တာကပဲ ဒီမှာနေတယ်။ မိမိ အလုပ်လုပ်တဲ့နေရာကို အာရုံပြုလိုက်လို့ ရှိယင် စိတ်ညွတ်လိုက်လို့ရှိယင် ဆိုပါတော့ပေါ့။ အဲဒီအာရုံ ပေါ်တယ်။ ဒီတော့ စိတ်တွေ ဘယ်လောက်များများကြီး ဖြစ်နေတယ်ဆိုတဲ့ဥစ္စာ လက်ဖြောက် တစ်ချက်တီး ကုဋေတစ်သိန်းမက ဖြစ်တယ်လို့ဆိုတော့ အာရုံပြုလိုက်ယင် လက်ဖြောက် တစ်ချက်တီးလောက်ဆိုယင်ဘဲ ဟိုမှာ အာရုံ ရနေပြီ။ ဒါဘယ်ကရတုံး။ ဘယ်သူကမှ လာမပေးဘူး။ စိတ်နဲ့ လှမ်းမှီနေတာ၊ စိတ်နဲ့သိနေတာ။ ဒီကနေပြီးတော့ သိနေတာ။

http://www.dhammadownload.com



**ရုပ်ထက် စိတ်ကမြန်** ရုပ်က အဲဒီလောက်မြန်တာ မဟုတ်ဘူး။ သမီးခင်ပွန်း စကားပြောတဲ့နေရာမှာ တစ်ယောက် တစ်ယောက် မတည့်တဲ့ စကား ပြောပြီးတော့ ဆိုပါတော့ တစ်စက္ကန့်လောက်ကြာမှ ရုပ်ပြောင်းတာတွေဟာ ပေါ်လာတယ်၊ အမှန်ပြောင်းနေတာ ကတော့ ပြောပြီးပြီးချင်း ပြောင်းတာ။ မတည့်တဲ့စကားကို ပြောပြီးပြီးချင်း ရုပ်တွေပြောင်းနေတာ။ စိတ်ကြောင့် ဖြစ်တဲ့ ရုပ်တွေ ပြောင်းနေတာ။ ဒါပေမယ့်လို့ ဘေးက မြင်ရတာက တစ်ယောက်ကမြင်ရတာက မြန်ပေ့ဆိုတောင် တစ်စက္ကန့်လောက်ကြာတော့မှ သြော် "ငါ့ကိုစိတ်ဆိုးပြီ" လို့ သိရတယ်၊ ဒီတော့ ရုပ်က ဘယ်လောက်နှေးနေတုံး။ စိတ်က အဲဒီစက္ကန့်လောက်ဆိုယင် ကိုယ့်အလုပ်ရုံမှာ ခေါက်တုံ့ခေါက်ပြန် ပြန်နေပြီ။ စိတ်က အဲဒီလောက် မြန်ပါတယ်။ ဒီတော့ စိတ်ထောက်ယင် ရုပ်က နှေးပုံ။ ပြီးတော့ ရုပ်ထောက်ယင် စိတ်က မြန်ပုံဟာ သဘော ပေါက်လောက်ပါတယ်။

**လောပိတခတ်အား ဥပမာ** ဘုန်းကြီးတို့ လောပိတကနေပြီး တော့ ခတ်အားပေးတဲ့ ဥစ္စာဟာ ရုပ်ချင်းဆက်ဆက် ဆက်ဆက်လာ တဲ့ဥစ္စာ။ အလွန်မြန်တယ်။ ပြောနိုင်လို့ရှိယင်တော့ ဟိုက

http://www.dhammadownload.com



နာရီချင်းလည်း ကိုက်မယ်ဆိုယင် ဘယ်နာရီက ဓာတ်ဖွင့်လိုက်တာ။ ရန်ကုန်မှာ ဘယ်နှစ်နာရီမှာ ဓာတ်ရောက်လာတယ်။ ဒီလောက်တော့ပြောလို့ အချိန်ချင်းကွာမယ်။ စိတ်က အဲဒီလောက် မကဘူး။ လောပိတံကနေပြီးတော့ ရန်ကုန်မှာ ငါဘာကိစ္စ ဘယ်သူ့အာရုံပြုလိုက်လို့ရှိယင် ရုပ်မပေါ်ခင် စိတ်က ဟိုမှာပေါ်လာပြီ။ ဘာဖြစ်လို့တုံး၊ စိတ်တွေက အမြန်ဆုံး အာရုံကိုလည်းယူနိုင်တယ်။ ဟိုကနေလည်းယူနိုင်တယ်။ ပြီးတော့ ကုဋေ တစ်သိန်းမက ဖြစ်တော့ အဲဒီပေါ်လာတဲ့အခါမှာ ရုပ်ပထမဆုံး ပေါ်တယ်။ နောက်တော့ ဒီဘယ်လိုဆိုတဲ့ ဥစ္စာတွေဟာ လောပိတဓာတ်အား ဒီမရောက်ခင် သူက တော်တော် များများကြီးကို သိနေပြီ။ တစ်စိတ်တည်း သိတာမဟုတ်ဘူး။ စိတ်တွေအများကြီး အပြောင်းအလဲနဲ့ သိတာ။ ဒီတော့ စိတ်က မြန်ပုံဟာ သဘောမပေါက်ထိုက်ဘူးလား။ စိတ်ထောက်ယင် ရုပ်က နှေးပါတယ်။ နှေးတာတောင် အမြန်ကြီး မြန်သေးတယ်။

## မေးခွန်း (၃)

**မေး။** ။ ရုပ်စိတ်တော့ ရှင်းပါပြီ၊ တပည့်တော် သိချင်တာက စိတ်နဲ့ ရုပ်နဲ့ မျှလို့ သန္ဓေတည်တော့ ဘယ်ဟာအရင်။

http://www.dhammadownload.com



**ဖြေ။** ။ ကောင်းလိုက်တာ၊ ကောင်းလိုက်တာ။ ဘုန်းကြီးတို့စာက တိကျတယ်။ ရုပ်နဲ့ စိတ်နဲ့၊ စိတ်ကလည်း ကံကြောင့် ဖြစ်တဲ့စိတ်။ ရုပ်ကလဲ ကံကြောင့်ဖြစ်တဲ့ရုပ်။ တစ်ပြိုင်နက်ဘဲ။ ခုနက ဉာဏ်ကောင်း ဉာဏ်မကောင်းဆိုတဲ့ သတ္တိတွေဟာ အဲဒီစိတ်က လာတာ။ ရုပ်ချင်းကွဲတဲ့ဥစ္စာက ဟိုရုပ်ကလာတာ။ သူတို့ တစ်ပြိုင်နက်ဖြစ်တာ။ ဒါကတော့ သက်သေပြစမ်းပါဆိုလို့တော့ ပြလို့မရဘူး။ ပြလို့မရတဲ့ ဥစ္စာကို ဘုန်းကြီးတို့ရဲ့ စာမှာရှိတယ်။

**လက်တွေ့သိရ** တချို့ကိစ္စမှာ ပစ္စက္ခသိဒ္ဓတဲ့၊ လက်တွေ့။ ဒါဟာ သေချာသွားတယ်။ ပြီးစီးသွားတယ်။ လက်တွေ့သေချာသွားတယ်။ ပစ္စက္ခသိဒ္ဓတဲ့။ ဒါက လက်တွေ့၊ မှန်နေတဲ့လက်တွေ့၊ လုပ်နေတဲ့ အလုပ်တွေကတော့ ပစ္စက္ခသိဒ္ဓချည့်ပဲ။ ဟာ ဒီကောင် မိုက်လိုက်တာ၊ သိပ်မိုက်တာ။ ခင်ဗျား သူ့ကို ဒီလိုမစွပ်စွဲနဲ့။ တစ်နေ့က ဘယ်သူ့ကို သူပါးချလိုက်တာ။ ဒါဟာ ပစ္စက္ခသိဒ္ဓ မဟုတ်လား။ သူမိုက်တဲ့ ဥစ္စာကို လက်တွေ့ကို ပြနိုင်တယ်။ ဟိုလူက သိပ်လိမ္မာတာ။ ဘာဖြစ်လို့။ ပါးချပေမယ့်လို့ ငါကြောက်လို့တော့ မဟုတ်ပါဘူးကွာ။ ငါ မင်းတော့ သည်းခံပါရဲ့ဆိုတော့ ပစ္စက္ခသိဒ္ဓ ဖြစ်မသွားဘူးလား။ ဒီတော့

4(A)

http://www.dhammadownload.com



ပစ္စက္ခသိဒ္ဓဆိုတာ လက်တွေ့မျက်မြင်။ သူပြော လူပြော မဟုတ်ဘူး။ တခြားသွားပြီးတော့ ဘယ်ကောင်ဟာ သိပ်လိမ္မာတာဘဲ။ ခင်ဗျားကသာ လိမ္မာတာ၊ တစ်နေ့တုံးက ပါးချတာသူဘဲ။ ဒီလိုမဟုတ်လား။ လက်တွေ့သမားက လက်မခံဘူး တစ်ယောက်က ပြောတဲ့ဥစ္စာကို။ ဒါဟာ ပစ္စက္ခသိဒ္ဓ တရားတွေပါ။

**မှန်းကြည့်လို့သိရ** တစ်ခုကျတော့ အနုမာနသိဒ္ဓ၊ မှန်းတတ်တဲ့သူပေါ့လေ။ မှန်းတတ်တဲ့ လူက မှန်းကြည့်ယင် သေချာတယ်။ မှန်းတတ်တဲ့ အရှယ်က မှန်းပြီးကြည့်ယင် သေချာတယ်။ ဥပမာ – ဒီမှာဆိုပါတော့၊ မြစ်ရေတိုးတယ်ဆိုလို့ရှိယင် ဟိုမှာ မိုးရွာပြီ။ ရန်ကုန်မှာ အင်မတန် အေးတယ်ဆိုယင် ဘုန်းကြီးကသိပြီ။ အထက်နိုင်ငံမှာ ဒီထက်ပိုအေးမယ်။ ဘာဖြစ်လို့တုံး ဆိုတော့ မြောက်လေတိုက်လို့ အေးတာကိုး။ မြောက်လေတိုက်လို့ အေးတော့ကို ဟိုအထက်မှာဆိုယင် ဒါထက်ပိုပြီးတော့ အေးကိုအေးရမယ်။ ဘုန်းကြီးက သိပြီ။ ဒါ ဘာတုံး၊ အနုမာနသိဒ္ဓ။ ဟိုမှာသွားကြည့်ဖို့ မလိုဘူး။ ဒါဖြင့်ယင် ဘာဖြစ်လို့မြောက်လေတိုက်သလဲ။ ဘုန်းကြီးတို့က သုတနည်းလို့ပေါ့။ သုတေသနနည်းလို့ပေါ့။ ဘယ်မှာ ဘာရေခဲတောင်ကြီး ပြိုလိုက်တာတဲ့။ အဲဒီဟာကျတော့ ဘုန်းကြီး

http://www.dhammadownload.com



တို့က ဒီလောက်သုတက **မရှိတော့** မှန်းလို့မရဘူးနော်။ အဲဒီက အအေးဓာတ်တွေက ပြန့်ပြီးတော့လာလို့ အိန္ဒြိယမှာ လူတွေသေကြတယ်။ ဒီမှာလည်း ဒီလောက်အေးတယ် ဆိုတော့၊ အနုမာနနဲ့ ဟုတ်လောက်တယ်။ မှန်းကြည့်ရတာ။ ပစ္စက္ခတော့ မဟုတ်ဘူး။ ပစ္စက္ခသမားတွေက ရေဒီယိုက အသံလွှင့်ပြောလိုက်တော့၊ အနုမာနနဲ့ ဟုတ်လောက်တယ်။ ဘာဖြစ်လို့တုံး၊ ဒီမှာအေးနေပြီ။ ဒါက အနုမာနသိဒ္ဓတဲ့။

**အမူအရာ ကြည့်ပြီးသိရ** အာကပ္ပသိဒ္ဓ–သူရဲ့ စကားပြောတဲ့အရာကို ကြည့်ယင် ဉာဏ်ရှိတဲ့သူက သူတစ်ဘက်သားကို ကောင်းသော စိတ်ဓာတ်နဲ့ ပြောနေတာဘဲ၊ မှန်းလို့ရတယ်။ မကောင်း မတရားသော စိတ်နဲ့ပြောနေတာဘဲ၊ မှန်းလို့ရတယ်။ ဒီလောကကြီးမှာ ဒီလိုမှန်းမှန်းပြီးတော့ပေါ့လေ။ ဒါပေမယ့် ဉာဏ်ရှိတဲ့သူမှ မှန်းလို့ရတယ်နော်။ ဉာဏ်မရှိဘဲ သွားမှန်းလို့ရှိယင် အလွဲတွေ မှန်းတာဘဲ။ ဆိုပါတော့ အမျိုးသမီးက သူ့ဘာသာသူ သွားနေတဲ့ဥစ္စာဟာ၊ သူ့ဘာသာသူကြည့်တဲ့ဥစ္စာဟာ ငါ့ကို ဘယ်လိုဆိုယင် အနုမာနနဲ့ မှန်းကြည့်ယင် တည့်ချင်မှ တည့်မယ်၊ တော်တော်ကြာယင် ပါးချခံရမယ် ဟုတ်လား။ ဒီတော့ အနုမာနသိဒ္ဓက ဉာဏ်ရှိမှဖြစ်တယ်။ ဉာဏ်မရှိလို့ ရှိယင်တော့ ခုနကလို ဖြစ်တတ် ပျက်တတ်ပါတယ်။

http://www.dhammadownload.com



**ဘုရားကို ယုံကြည်ပြီးသိရ** ပစ္စက္ခသိဒ္ဓ–အနုမာနသိဒ္ဓ – အာကပ္ပသိဒ္ဓ၊ အဲဒီသုံးမျိုးနဲ့ မဟုတ်ဘဲ ဉာဏ်ကလည်း သူတစ်ပါးရဲ့စိတ်ကိုသိတတ်တဲ့ ပရစိတ္တဝိဇာနန ဉာဏ်လည်း မရ၊ အတွင်းကို သိတတ်တဲ့ ဒိဗ္ဗစက္ခု ဉာဏ်လည်းမရတော့ သိဒ္ဓေယျသိဒ္ဓ။ ဒီလောက် ဉာဏ်ကြီးတဲ့ ဘုရား ဟောထားတဲ့ဥစ္စာ ဘယ်တော့မှမလွဲဘူးဆိုပြီးတော့ ယုံကြည်တော့ကာ ဘုန်းကြီးတို့က ပဋိသန္ဓေ ဖြစ်တဲ့အခါမှာ စိတ်နဲ့ ခုနက ကမ္မဇကလာပ်စုစည်းတာ၊ စိတ်ကလည်းဘဲ ရှေးကံကြောင့်ဖြစ်တဲ့စိတ်မို့လို့ ဉာဏ်ထက်တယ်၊ ဉာဏ် မထက်ဘူးဆိုတဲ့ခာတ်ဟာ ဒီမှာပါလာတယ်။ စိတ်ကောင်းတယ်၊ စိတ်မကောင်းဘူးဆိုတဲ့ ခာတ်ဟာ ဒီပဋိသန္ဓေစိတ်ထဲမှာ ပါလာတယ်။ အဲဒီလို ပြောနိုင်တာက သိဒ္ဓေယျသိဒ္ဓ၊ ဘုရားယုံကြည်လို့ ပြောနိုင်တာ၊ ဒီလောက်ဉာဏ်ကြီးတဲ့ ဘုရားဟာ အမှားမှား အယွင်းယွင်း ဘယ်တော့မှ မဟောဘူး။ ဘာပြုလို့တုံး၊ ဘာအကျိုးရှိလို့ ပြောရ ဟောရမှာတုံး။ ဒီလိုအနေမျိုးနဲ့ ဘုရားကို ယုံကြည်သော အားဖြင့် ဘုန်းကြီးက ဒါကို လက်ခံပြီးတော့ သိဒ္ဓဖြစ်တယ်။

## မေးခွန်း (၄)

**မေး။** ။ အခုန ကံတရားအကြောင်း ဟောသွားတာ တပည့်တော်က စိတ်ရောဂါနဲ့ပတ်သက်လို့

http://www.dhammadownload.com



ဝါသနာပါတာ။ စိတ်ရောဂါဟာလည်း ကံတရားကြောင့်ဖြစ်သလား။ သို့မဟုတ် စိတ်ပညာဆရာများအလိုအရ ပတ်ဝန်းကျင်ကြောင့်လား။

**ဖြေ။** ။ သူတို့ရဲ့အယူအဆလေးကို မပြောပေးနဲ့။ ဒါမှ ဘုန်းကြီးတို့ရဲ့ လမ်းစဉ်ကိုသိမယ်။ ဒီလိုဆိုပါတော့၊ မိမိကနေတဲ့ နေရာတွေမှာ အရှုးတွေ ဘာတွေ တွေ့ရတယ်။ ဒါက ဘုန်းကြီးတို့ကံက အင်မတန် သတ္တိစွမ်းပါတယ်။ တစ်ဘဝလုံး သူ့ရဲ့သတ္တိ ပြန့်နေပါတယ်။ သို့သော်လည်း သူ့သတ္တိက နည်းနည်းကလေးရယ်။ ပတ်ဝန်းကျင်က သိပ်များတာဘဲ။

**ပစ္စည်းပျက်လို့ရူး** ဆိုပါတော့ပေါ့ ပစ္စည်းပျက်လို့ ရူးတယ်။ ပစ္စည်းပျက်လို့ စိတ်တွေ တစ်ခါတည်း ဖောက်ပြန်သွားပြီးတော့ ရူးတယ်။ သို့ပေမယ့်လို့ အရင်းခံ ကံကလေးကတော့ နည်းနည်းလေး လိုက်လာတယ်။ လူတိုင်း ပစ္စည်းပျက်တဲ့လူတိုင်း ရူးသလားလို့။ ပစ္စည်းပျက်တဲ့လူတိုင်းတော့ မရူးဘူး။ သူတော့ ရူးလာတယ်။ ဒါဖြင့် ဟိုလူလည်း ပစ္စည်းပျက်တယ်။ ဒီလူလည်း ပစ္စည်းပျက်တယ်။ သူတော့ ဘာလို့ မရူးသလဲ။ သူတော့ ဘာလို့ ရူးရသလဲ။ ဒီလိုဆိုတော့ မူလကံချင်းက

http://www.dhammadownload.com



ခါတ်ချင်းမတူပြန်ဘူး။ ဒီမှာ ရုပ်တွေက ရှိနေသေးတယ်။ ကံကြောင့်ဖြစ်တဲ့ ရုပ်တွေက ရှိနေတော့ သူတော့ ပစ္စည်းပျက်တယ်။

**ပတ်ဝန်းကျင်ကြောင့်ရှုး** တစ်ခါ စိတ်က အို– ဒါပျက်မှာပေါ့၊ ပျက်လည်းဘာဖြစ်လဲ။ ငတ်မသေပါဘူး။ သူက ဒီလိုသွားလိုက်တယ်။ ဟိုတစ်ယောက်ကတော့ ပစ္စည်းပျက်တယ်လို့ဆိုတော့ စိတ်ကိုညစ်လို့၊ ငါတော့ လူစဉ်မမီတော့ပါဘူး၊ သေတာဘဲ ကောင်းပါတော့တယ်၊ လူ့ပြည်မှာ မနေချင်ပါဘူးလို့။ သူက လွန်ကဲသွားတယ်။ လွန်ကဲသွားတော့ ရူးသလိုလို နှမ်းသလိုလို နေရာက 'ရူးပြီတဲ့ ရူးပြီတဲ့' ဆိုတော့ အစတုန်းက မရူးတရူး၊ နောက်တော့ သူများက ရူးပြီတဲ့ ရူးပြီတဲ့လို့ သမုတ်လိုက်တော့ အရူးဖြစ်သွားတာဘဲ။ ပတ်ဝန်းကျင်က ရူးပြီတဲ့ရူးပြီတဲ့လို့ မသမုတ်ဘဲနဲ့ ငါက ဘယ်လိုဖြစ်လာတာ။ တစ်နေ့တုံးက ပျက်တဲ့ ပစ္စည်းတွေဟာ ခုပြန်ပြီးတော့ ဘယ်ကရမတဲ့လဲ စသည်ပေါ့လေ။ မဟုတ်ပေမယ့်လို့ ဖြေဖျော်မှုများ ပေးမယ်ဆိုယင် ရူးကို မရူးဘူး။ အဲဒါကြောင့်မို့ ဘေးကပတ်ဝန်းကျင်ကြောင့် ဆိုတဲ့ဥစ္စာ အဓိက။

**ကံတော့မကင်းဘူး** သို့သော်လည်း အခြေခံ ကံကလေးကတော့ မတူကြဘူး၊ အဲဒီတော့

http://www.dhammadownload.com



ကံက မကင်းစကောင်းဘူးပေါ့။ ကံကြောင့် ရှုးတာတော့ မဟုတ်ဘူး။ ပတ်ဝန်းကျင်ကြောင့် ရှုးတာ။ သို့သော်လည်း ကံမကင်းဘူး၊ မေးသာမေး။ ဘုန်းကြီးက မေးစေချင်လွန်းလို့ကို လက်ခံနေတာ၊ ဘာဖြစ်လို့ဆိုယင် အပြည့်အစုံ မေးရယင် ဒီပရိသတ်နောက်က ဗုဒ္ဓဘာသာ ပရိသတ်တွေကလည်း သူတို့သိဒ္ဓေယျသိဒ္ဓနဲ့သာ ယုံကြည်ပြီးတော့ နေတာ။ ဒါကြောင့် ဘုန်းကြီးက မေးသာမေးလို့ မေးစေချင်လွန်းလို့ကို ဘုန်းကြီးက အမေးခံနေတာ။ ဘာဖြစ်လို့တုံးဆိုတော့ အများ ဒါမှ နည်းနည်း ဉာဏ်ရှင်းလာမယ်။

## မေးခွန်း (၅)

**မေး။** ။ တပည့်တော်တို့ နိုင်ငံခြားတွေ ဘာတွေ သွားတော့ သူတို့က မေးကြတယ်။ စိတ်ရောဂါနဲ့ ပတ်သက်လို့ ဗုဒ္ဓဘာသာက ရောဂါ ဖြစ်ပုံပျက်ပုံ ဘယ်လိုဆိုသလဲတဲ့။

**ဖြေ။** ။ ခုနကပြောပြီ၊ တချို့ကတော့ ကံကြောင့် သက်သက် ရှုးတယ်။ ဘုန်းကြီးတို့ စာထဲမှာ ပဋ္ဌာစာရာ ရှုးတာ ဝတ္ထုအဖြစ်နဲ့ လာတယ်။

http://www.dhammadownload.com



**သူဌေးသမီး ပဋာစာရာ** ပဋာစာရာက နောက်ကို ကောင်းလည်း ကောင်းလာတယ်။ မကောင်းခင်ကလည်း အင်မတန် သွက်သွက်လည်အောင် ရှူးတဲ့ သူဌေးသမီး။ သူက ပထမဆုံး အိမ်မှာခိုင်းထားတဲ့ ကျွန်နဲ့လိုက်ပြေးလို့ မိဘတွေက အသိအမှတ် မပြုဘူး။ မပြုတော့ သူ လွတ်လွတ်မှာနေတယ်။ လွတ်လွတ်မှာ နေရာက နောက်တော့ မိဘတွေ ဆိုတဲ့ဥစ္စာဟာ ဘယ်လိုမှ သားသမီးကို မပြတ်နိုင်ပါဘူး ဆိုပြီးတော့ ဖွားခါနီးကျတော့ မိဘဆီသွားပါရစေလို့ ခွင့်တောင်းတော့ ယောကျ်ားက သူ့ရဲ့အမှားတွေလည်း မြင်နေတာဖြစ်တော့ မသွားဝံ့ဘူး။ တောင်းတောင်းပန်ပန်နဲ့၊ မသွားပါနဲ့ မသွားပါနဲ့။ သူကလည်းဘဲ သားဦးဖွားရမယ့်ဥစ္စာကို နည်းနည်း ကြောက်ကြောက် လန့်လန့် ဖြစ်နေတော့ အမေတို့အနား မှာ ဖွားချင်တယ်။ ဒါနဲ့ သူတိတ်တိတ် ထွက်ပြေးတယ်။ နောက်တော့ ယောကျ်ားက လိုက်ရှာတယ်။ လိုက်တော့ကို လမ်းမှာဘဲပေါ့လေ မွေးဖွားပြီးတော့ ကဲ... ဒီကိစ္စနဲ့ သူ့ အမေဆီ ပြန်ချင်တဲ့ဥစ္စာ ဒီကိစ္စလည်းပြီးပြီ။ ဘာမှလည်း ရောဂါ မဖြစ်တော့ဘူးဆိုပြီး ပြန်သွားတယ်။

**ယောကျ်ားကို မြွေကိုက်** ဒုတိယတစ်ယောက် ဖွားခါနီးကျတော့ ဒီလိုဘဲသွားချင်တယ်။ သွားချင်တော့

http://www.dhammadownload.com



ဘိုမှာက ညကြီး မင်းကြီးမှာ **ဒီကလည်း** ယောကျ်ား
ဘလည်း လိုက်လို့မှီပါပြီ။ ညကြီး မင်းကြီး ဖွားရတယ်။
ွားရတော့ မီးတို့ ဘာတို့ ရဖို့ရန် ထင်းတို့ဘာတို့ အရှာမှာ
ယောကျ်ားက ပိုးထိလို့ မြွေကိုက်လို့ဆုံးတယ်။ အဲဒါနဲ့
သူက 'မလာနိုင်၊ မလာနိုင်' နဲ့သာ နေရှာတယ်။ နောက်တော့
နက် သူလိုက်ရှာတော့ တွေ့နေပြီ။ နောက်တော့
သူ့နေရာ သူပြန်မယ့် အနေမျိုးနဲ့၊ သို့မဟုတ် အမေ
အဖေဆီပြန်ဖို့လားတော့ မသိဘူးပေါ့လေ။ တစ်နေရာ
သွားရတော့မယ်။

**သားငယ်စွန်ချီ** သွားတော့ ချောင်းကလေးတစ်ခု တွေ့
**သားကြီးရေနစ်** တယ်။ ချောင်းကလေး တစ်ခုကို တွေ့
တော့ သားနှစ်ယောက်ကို ပိုက်ပြီးတော့
သူမကူးနိုင်ဘူး၊ ဒါနဲ့ တစ်ယောက်စီ၊ သားကြီးကို အရင်၊
သားငယ်ကလေး အရင် ယူသွားသလားတော့ မသိဘူး။
ဟိုဘက်ချောင်းတစ်ဘက် ရောက်ရော။ တစ်ယောက်က
ဒီမှာ ချောင်းတစ်ဘက်မှာ နေတယ်။ အဲဒါ ရောက်တော့
ပြန်ပြီးတော့ သားတစ်ယောက်ကို ယူမယ်လုပ်တုန်းမှာ
သားငယ်ကလေးကို သားတစ်မှတ်လို့ စွန်က ချီသွားရော။
အဲဒီတင် လှမ်းပြီးတော့ သူလက်ခုပ်လက်ဝါး တီးပြီးတော့
ခြောက်တဲ့ဥစ္စာ သားကြီးက သူ့ကို ခေါ်တယ်လို့ထင်ပြီး

http://www.dhammadownload.com



ရေထဲဆင်းလာခဲ့တယ်။ ဆင်းလာခဲ့တော့ သားကြီး ရေနစ်ပြီးတော့ သေရော။ အဲဒါ ပတ်ဝန်းကျင်ပေါ့။ ပတ်ဝန်းကျင်က လှုပ်ရှားတာမဟုတ်ဘူး။ ပတ်ဝန်းကျင်က ကံကြောင့် ဒီလိုဖြစ်လာတာ။ ကံအရင်းခံပြီးတော့ ဒီလိုကိုး။

**မိဘရော မောင်ရောသေ**

ဒီလိုနေရာမှာ ကံကလည်း တော်တော်ကြီးမားတယ်။ ပြီးတော့ ပတ်ဝန်းကျင်ကလည်း အင်မတန် ကြီးမားတယ်။ ရှုးကိုရှုးရှာတယ်၊ သူဌေးသမီး။ ပြီးတော့ အဲဒီလို ကယောင်ကတမ်းနဲ့နေရာက "ဘာဘဲဖြစ်ဖြစ် မိဘတွေတွေ့ ပြီးရောပေါ့လေ" ဆိုပြီးလာတော့ မနေ့ညက လျှပ်စီးကြီးတွေလှုပ်၊ မိုးကြီးတွေရွာလို့ သူတို့ရဲ့ အုတ်တိုက်ကြီး ပြိုပြီးတော့ မိဘနှစ်ယောက်ရော မောင်ရော အုတ်တိုက်ပိပြီးတော့ သေရောတဲ့။ ကဲ-ပတ်ဝန်းကျင် ဘယ်လောက်ဆိုးတုံး။ အဲဒီမှာ သူ့အမိအဘတွေလည်း သေတယ်။ အိမ်လည်း ပြိုတယ်ဆိုတော့ ဒီပတ်ဝန်းကျင် ရဲ့အနေနဲ့ ရစရာမရှိအောင် ရှုးသွားတယ်။

**တရားဟောလို့ ရဟန္တာဖြစ်**

ဗုဒ္ဓမြတ်စွာနဲ့တွေ့တော့ ဗုဒ္ဓမြတ်စွာက လောကမှာ မသေလည်းဘဲ အမေ ဆိုတဲ့ဥစ္စာလည်း တကယ့်အရေးမှာ

http://www.dhammadownload.com



အားမကိုးနိုင်ပါဘူး။ သေရမယ့်ဘေးဆိုတာ အမေလည်း အားကိုးလို့ မရပါဘူး။ ခုနက သူတွေ့တဲ့ဒုက္ခကို အမေလည်း မတားနိုင်ပါဘူး။ နောက်မှသာ သက်သာအောင် လုပ်နိုင်တာဘဲ။ အဖေလည်း မတားနိုင်ပါဘူး။ မောင်ဖွား မိဘများလည်း မတားနိုင်ပါဘူး။ ဆွေမျိုးတွေလည်း မတားနိုင်ပါဘူးလို့ဟောတော့ ဗုဒ္ဓမြတ်စွာရဲ့ ကရုဏာ အရှိန်ကြီးက အင်မတန် ကြီးကျယ်နေတာကိုး။ ဉာဏ်တော်နဲ့ ချော့ချော့မော့မော့ ဟောတော့ တစ်ခါတည်း အရှုးပျောက်ပြီး သူ့ကိုယ်သူ နည်းနည်းရှက်ပြီးတော့ အဝတ်အစားလေးတွေ ဘာလေးတွေ ဝတ်ချင်လာတယ်။ ဝတ်ပြီးတော့မှ ဗုဒ္ဓမြတ်စွာက တရားဟောလို့ တစ်ခါတည်း ဘိက္ခုနီမ လုပ်ပြီးတော့ ရဟန္တာမ ဖြစ်တယ်။

**ကံပတ်ဝန်းကျင်စိတ်** ပတ်ဝန်းကျင်က အင်မတန် ဆိုးဝါးတယ် ဆိုပေမယ့် ပတ်ဝန်းကျင်ချည်း မဟုတ်သေးဘူး။ တစ်ခါတစ်ခါ ကံလည်းတော်တော်ဆိုးဆိုးဝါးဝါး လိုက်လာပါတယ်။ ဘယ်သူက အားကောင်းဆိုတာကတော့ တချို့တချို့ လူများအတွက်တော့ ကံက တော်တော်အလေးချိန်စီးလိမ့်မယ်။ တစ်ချို့ တစ်ချို့ လူများအတွက် ပတ်ဝန်းကျင်က အလေးချိန် စီးပါလိမ့်မယ်။ ပတ်ဝန်းကျင်က အလေးချိန်စီးချင်း တူလည်းဘဲ

http://www.dhammadownload.com



**ကိုယ့်စိတ်ဓာတ် ခိုင်–မခိုင်ကိုး။** အို ဘယ်နဲ့နေနေ "သေတော့လည်းသေပစေပေါ့"၊ "ငါတော့ လူထဲမှာ လူရာဝင်အောင် ကြိုးစားမယ်" လို့ စိတ်တင်းနိုင်လို့ရှိယင် ပတ်ဝန်းကျင်က ဒီလိုဖြစ်ပေမယ့်လို့ သူက မရူးဘူး။ သို့သော်လည်း များသောအားဖြင့်က ဒီလို ဒုက္ခတွေ တွေ့ယင်ဘဲ ရူးသလိုလို ဖြစ်တတ်တာကိုး။

## မေးခွန်း (၆)

မေး။ ။ တစ်ချို့ အနောက်နိုင်ငံမှာ စိတ်ရောဂါ တစ်မျိုးဖြင့် ကိုယ့်အသက်ကို သေကြောင်းကြံကြ သေကြပါတယ်။ အဲဒါ ဗုဒ္ဓဘာသာတိုင်းပြည် အနေနဲ့တော့ တရားတော်အရ ဘယ်လိုပါလဲ။

ဖြေ။ ။ ဗုဒ္ဓဘာသာတိုင်းပြည်မှာက ကိုယ့်ကိုယ်ကို သတ်လို့ရှိယင်၊ အဖန်ငါးရာ သေရမယ် ဆိုတဲ့ လှန့်လုံးလေးက ရှိထားတယ်။

**အဖန်ငါးရာဆိုတဲ့ လှန့်လုံးလေး** သတ်လို့ကတော့ ကမ္ဘာငါးရာ နောက် ထပ်မလိုက်ပါဘူး။ ရှေးကံက ရှိနေယင်သာ ဘဝငါးရာ လိုက်တာပါ။

http://www.dhammadownload.com



ရှေးကံ မရှိယင်**တော့** သေဖို့တော့ မလိုက်ပါ**ဘူး။** ပြီးတော့ တစ်ခုက တရားတော်ထဲမှာ ဘုန်းကြီး**တွေ** ကိုယ့်ကိုယ်ကို မသတ်ရဘူး။ ဘယ်လောက် **စိတ်**ညစ်ညစ်၊ ကိုယ့်ကိုယ်ကိုသတ်ယင် အာပတ်သင့်တယ်။ သေအောင် အစာငတ်မခံရဘူး။ ခုနကလို လည်ပင်းညှစ်သတ်တာတွေ ဘာတွေ မပြောနဲ့၊ အစာငတ်ကို မခံရဘူး။ အာပတ် သင့်တယ်။

**မြန်မာတွေ** အဲဒီလိုဘဲ အဆက်ဆက်က တရားတွေရှိ **သတ်သေတာနဲ့** တော့ မြန်မာလူမျိုးများက ကိုယ့်ကိုယ် ကို သတ်ဖို့တော့ သိပ်မလွယ်လှဘူး။ ပြီးတော့ အထိုက်အလျောက် ကံတို့ဘာတို့ ယုံကြည် ထားတာဖြစ်တော့ ကံကောင်းလို့ရှိယင် ပြန်ကောင်းအုံးမှာဘဲ ဆိုတဲ့ မျှော်လင့်ချက်ကလေးက ရှိတယ်၊ ရှိတော့ ကိုယ့်ကိုယ်ကို သတ်သေတဲ့သူက အင်မတန်နည်းတယ်။ နိုင်ငံခြားမှာတော့ ဒီလိုမျှော်လင့်ချက်ကလည်း မရှိတော့ တရားကလည်း မရှိတော့၊ အို – သေတာဘဲ ကောင်းတယ်၊ သေယင် သူတို့က ပြီးတယ်ထင်ပြီးတော့လေ သတ်ကြတယ်။ ဒါဟာ အတွေ့အကြုံ ဗဟုသုတလိုက်ပြီးတော့ ကွာသွား ကြတာ။

http://www.dhammadownload.com



## မေးခွန်း (၇)

**မေး။** ။ အနောက်နိုင်ငံ ရုပ်ဝါဒီသမား အချို့က ပြောပါတယ်၊ စိတ်သည် အလွန်နူးညံ့သိမ်မွေ့သော ရုပ်ပင် ဖြစ်တယ်လို့။

ဖြေ။ ။ ခုနက ဘုန်းကြီး ပထမ ဟောတုန်းကဘဲ ပြောသွားပြီ။ **စိတ်မှာ အထည်ကိုယ်** ရုပ်မရှိပါဘူးလို့ ပြောသွားပြီ။ သူတို့က မှန်းပြောတာ။ ဗုဒ္ဓမြတ်စွာက တိုက်ရိုက်သိလို့ ဟောတော်မူတာ။

**အထည်ကိုယ်မရှိ** ပြီးတော့ စိတ်ဟာလည်းပဲ အထည်ကိုယ်တစ်မျိုးပါဘဲလို့ ဆိုတဲ့ဥစ္စာ၊ ဒီကနေပြီးတော့ ဆိုပါတော့၊ အင်မတန်ဝေးတဲ့ မိမိ နေခဲ့ဖူးတဲ့ ပညာသင်ကြားဖူးတဲ့ နိုင်ငံခြားတစ်ခုခုကို မှန်းလိုက်ယင် ရုပ်က သွားနေတာမဟုတ်ဘူး။ စိတ်ကလည်း ဟိုသွားတာမဟုတ်ဘူး။ ဒီကဘဲ-အာရုံကို ယူလို့ရတယ်။ ပြီးတော့ ရုပ်မှာ အထည်ကိုယ်ရှိတာလည်း ဓာတ်ကြီးလေးပါးက မ-တည်လို့ အထည်ကိုယ်ဖြစ်နေတာ။ စိတ်မှာ အဲဒီ မ-တည်စရာ ဘာမှမရှိဘူး။ ဓာတ်သဘောဘဲ ရှိတယ်။ စိတ်ဆိုတဲ့ အသိဓာတ်သဘောရှိတယ်။ အထည်ကိုယ် မရှိပါဘူး။

http://www.dhammadownload.com



**ဘုန်းကြီးတို့က သနားမိ** ဒီတော့ ဘုန်းကြီးတို့က အဲဒါကြောင့် ဗုဒ္ဓမြတ်စွာရဲ့ဘာသာကို ပညာအဖြစ်နဲ့ လိုက်စားဖို့ သိပ်ကောင်းပါတယ်။

အနောက်နိုင်ငံက ပညာရှိတွေလို့ ဆိုပေမယ့်လို့ ဗုဒ္ဓတရားကို မရတော့ဘူး။ သူတို့ ဉာဏ်မီသမျှ ခန့်မှန်းကြတာပါ။ အဲဒါကိုတော့ ဘုန်းကြီးတို့က သနားမိပါတယ်။ ဒီလောက်ဝေးသွားတာဟာ ဘာဖြစ်လို့တုံးဆိုတော့ အခြေခံ နည်းနည်းကွာသွားကြလို့ ဒီလို ဖြစ်ရတာပါ။ ဒါကြောင့် ဒီနိုင်ငံမှာ အကယ်၍သာ ဗုဒ္ဓရဲ့ တရားတော်ကို ဘာသာတစ်မျိုးအဖြစ်နဲ့သာ လေ့လာကြလို့ရှိယင် နိုင်ငံခြားက လူတွေအပေါ်မှာ ဆရာ ကောင်းကောင်းလုပ်လို့ရတယ်။

## မေးခွန်း (၈)

**မေး။** ။ ဒီဘဝမှ နောက်ဘဝသို့ မည်သို့ကူးပြောင်းကာ စုတေစိတ် ကျသောအခါ စိတ်နဲ့ရုပ်တို့ နောင်ဘဝသို့ မည်သို့ ကူးပြောင်းပါသနည်း။

**ဖြေ။** ။ သိပ်မေးလို့ ကောင်းတာပေါ့ - ဒါ။

## မေးခွန်း (၉)

**မေး။** ။ နောက်ဆုံး နိဗ္ဗာန်ရောက်ပြီဆိုတာနဲ့ စိတ်နဲ့ရုပ်တို့ မည်သို့ အဆုံးသတ်ပါသလဲ။

http://www.dhammadownload.com



ဖြေ။ ။ ဒါကြောင့်မို့ ပြဿနာနှစ်ခု ခွဲမေးတယ်။ ပြဿနာ တစ်ခုတည်းကို နှစ်ခန်း သုံးခန်း မေးလိုက်လို့ရှိယင် ဖြေရတာ၊ နားထောင်ရတာ ရှုပ်သွားလိမ့်မယ်။ ပထမမေးခွန်းက ဒီဘဝက စိတ်တွေရုပ်တွေ ပြောင်းသွားသလား၊ ဘယ်လိုလုပ်ပြီးတော့ နောက်ဘဝကို ကူးစက်သွားပါသလဲ။ သိပ်လည်းမေးထိုက်တယ်။ သိပ်လည်း လေ့လာထိုက်တယ်။

**စိတ်တွေရုပ်တွေ ဖြစ်ပျက်** ဘုန်းကြီးတို့ ခုနက စိတ်တွေဟာ ဖြစ်ပျက်၊ ဖြစ်ပျက်–ပြောခဲ့တယ် မဟုတ်လား။ ရုပ်တွေလည်း ဖြစ်ပျက်–ဖြစ်ပျက်ဘဲ၊ ဒါကို ပထမဆုံး လက်ခံ–မခံ၊ ဒါ အရေးကြီးပြန်တယ်။ ဟုတ်တယ်၊ ဖြစ်ပြီးပျက်၊ ဖြစ်ပြီးပျက်၊ ဖြစ်ပြီးပျက်။ လက်ဖြောက်တစ်ချက်တီးမှာ ကုဋေ တစ်သိန်းမက စိတ်တွေ အပြောင်းအလဲရှိတယ်ဆိုတာကို လက်ခံဖို့ ပထမဆုံးက ဘုန်းကြီး အခြေခံပြောခဲ့တယ်နော်။ စိတ် ဆယ့်ခုနစ်ချက်မှာ ရုပ်တစ်ချက် ဖြစ်ပျက်တယ်ဆိုတော့၊ လက်ဖြောက် တစ်ချက်တီးမှာ ရုပ်ပေါင်း ဘယ်လောက် အဖြစ်အပျက်ရှိရမယ်။ ဒါ သင်္ချာသမားတွေက တွက်လို့ ရတယ်။ ဘုန်းကြီး ပြောခဲ့ပြီနော်။

http://www.dhammadownload.com



**စိတ်ပြောင်းလွဲပုံ** အဲဒါလက်ခံလို့ရှိယင် ခုန်ပြီးတော့ ပြော လိုက်မယ်။ ဒကာတို့ရဲ့ခုစိတ်ဟာ ဆိုပါတော့ ခုန်ပြောမယ်။ တစ်နာရီလောက်ဆိုတော့ ဘာမှ အစပ်မရှိတော့ဘူး။ တစ်မျိုးပြောင်းချင်လည်း ပြောင်းလို့ရတယ်။ ပြောင်းချင်တိုင်း ပြောင်းနိုင်တယ်။ ဒီလို အဓိပ္ပာယ် မရဘူးလား။ လက်ဖြောက်တစ်ချက်တီး ကုဋေတစ်သိန်း မက အဖြစ်အပျက် ရှိတယ်ဆိုတော့ စိတ်ပြောင်းနိုင်တယ်။ ခုနကဘဲ စကားပြောရာက မကျေမနပ်စိတ်ဆိုတာ ဒေါသ စိတ်။ နောက်တော့ တောင်းပန်တော့ ကျေနပ်တယ်ဆိုတဲ့ ဥစ္စာက ဘာတုံး၊ သောမနဿစိတ်။ ချစ်လို့ရှိယင်လည်း လောဘစိတ်။ ဉာဏ်ရှိလို့ရှိယင်လည်းဘဲ ကုသိုလ်စိတ်၊ ဒီလိုဖြစ်မယ်။ ပြီးတော့ ဒီစိတ်ဟာ ခဏလေးတောင်မှ အပြောင်းအလွဲ ရှိတယ်နော်။

**ဘုန်းကြီး ကြိုးစားပြောနေတယ်** ဒီတော့ ဘုန်းကြီးတို့ ခုနက ပထမဆုံး လူ့ဘဝမှာ ကံကြောင့် ရုပ်ကလေး ၃–ခု ဖြစ်တယ်လို့ ပြောတယ်မဟုတ်လား။ ကံဟာ ဘယ်လိုသဘောလဲ ဆိုတော့ ခုဘုန်းကြီးပြောနေတဲ့ ဥစ္စာဟာ ဒကာတို့ကို မှတည်ပြီးတော့ ပြောပေမယ့် ပရိသတ်တွေ နားလည်အောင် ဘုန်းကြီးကြိုးစားပြီးတော့ ပြောနေတယ်

http://www.dhammadownload.com



နော်။ ကြိုးစားတယ်ဆိုတာ ဉာဏ်နဲ့ ကြိုးစားရတာဘဲ၊ အားနဲ့ခွန်နဲ့ ကြိုးစားရတာ မဟုတ်ဘူး။ ဉာဏ်နဲ့ကြိုးစားပြီးတော့ ပြောနေတာ။ အဲဒီ ပြောနေတဲ့အချိန်မှာ စေတနာဆိုတဲ့ စေတသိက်ထဲမှာ လှုံ့ဆော်မှုတရားတစ်ခုပါတယ်။ "ဒီလို နားလည်စေချင်တယ်၊ နားလည်အောင်လည်း ပြောနေတယ်" ဆိုတဲ့ အခါမှာ ခုနက စိတ်–စေတသိက်တွေက တစ်ကလာပ် တစ်ကလာပ် သဘောမျိုးနဲ့ ပေါင်းဖြစ်တာ အတူတူဖြစ်တာ။

**ကံဆိုတာ ဘာတုံး** အဲဒီ အတူတူဖြစ်တဲ့ အထဲမှာ စေတနာက လှုံ့ဆော်မှုက အင်မတန် များနေတာ။ ဘုန်းကြီးရဲ့ လှုံ့ဆော်မှုက အင်မတန် များနေတာ။ အဲဒီတော့ ဘာခေါ်တုံးလို့ဆိုတော့ 'ကံ' လို့ နာမည်သာတပ်တာပါ၊ ဒီစေတနာဘဲ။ ကံလို့ဆိုတာ ဘာတုံး၊ ကံက ဘာအဓိပ္ပာယ်တုံးဆိုတော့ အလုပ်။ ကောင်းသောအလုပ်ကို လုပ်နေတယ်။ အရင်းခံ ဘယ်သူတုံး၊ စေတနာ။ အရင်းခံ စေတနာကို ဘာခေါ်လိုက်မလဲ၊ ကံလို့ခေါ်လိုက်။ အမှန်တော့ အားလုံး အလုပ်တွေဘဲ။ အားလုံးရဲ့ စိတ်–စေတသိက်တွေရဲ့ အလုပ်တွေဘဲ။ အလုပ်ပေမယ့်လို့ ဒီအထဲ ဘယ်သူက ဗျာပါရများနေတုံးဆိုတော့ ဘုန်းကြီးတို့ရဲ့ စေတနာက ဗျာပါရသိပ်များတာဘဲ။ လူတွေ သိစေချင်တာက အဲဒီဟာ ကံလို့ခေါ်တယ်။

http://www.dhammadownload.com



**ကံတရားလည်းပျက်** ဒါဖြင့် လက်ဖြောက်တစ်ချက်တီးမှာ ကုဋေတစ်သိန်းမက ဖြစ်တယ်ဆိုတော့ အဲဒီကံတွေဟာလည်း ကုဋေတစ်သိန်းမက ဖြစ်မှာပေါ့၊ မဖြစ်ပေဘူးလား။ စေတနာတွေကလေ ကုဋေတစ်သိန်းမကဖြစ်တော့ ဖြစ်ဆိုယင် ပျက်သွားမှာပေါ့၊ ဟုတ်ပေဘူးလား။ ဆိုပါတော့၊ ပရိသတ်ကြီးတွေလည်း ပြန်သွားကြပြီ။ ဘုန်းကြီးလည်း နားနားနေနေနဲ့ နေတယ်၊ လာတဲ့သူတွေ ဟိုစကားပြော၊ ဒီစကားပြောနေတယ်ဆိုတော့ ဒီကံဟာ အဲဒီနောက်က အချိန်မှာ ရှိသေးသလား၊ မရှိဘူးနော်၊ မရှိဘူး။

**ကမ္မသတ္တိ** ဒါဖြင့် ပြီးပြီးပျောက်ပျောက်လား။ ဒီမှာ သိပ်လိုက်ဖို့ကောင်းတာ။ ပြီးပြီးပျောက်ပျောက်လားဆိုတော့ ဗုဒ္ဓမြတ်စွာက ကမ္မသတ္တိ၊ ခုနက စေတနာရဲ့ သတ္တိကို ဟောတော်မူတယ်။ စေတနာရဲ့ သတ္တိဟာ ပဋိသန္ဓေစိတ် ဝိပါက်စိတ် ဖြစ်တယ်။ စေတနာကံက ဟိုမှာသွားပြီး အကျိုးပေးတာ။ ခုနက ကမ္မဇကလာပ် ၃–စည်းဆိုတာ ဒီစေတနာက သွားပြီးတော့ အကျိုးပေးတာ။ ခု စေတနာမျိုးကို ဘုန်းကြီးမှာ တစ်ဘဝတည်း အကောင်းစေတနာတွေ မနည်းဘူး၊ မရှိပေဘူးလား။ မကောင်းစေတနာတွေလည်း မနည်းဘူး၊ မရှိပေဘူးလား။ ပြီးတော့ ဟိုဘက်

http://www.dhammadownload.com



ဘဝများစွာကလည်း အကောင်းစေတနာတွေ မနည်းဘူး၊ မကောင်းစေတနာတွေလည်း မနည်းဘူး၊ ရှိတယ်။ ဒါတွေဟာ အကုန်လုံးချုပ်တယ်။ ဘုန်းကြီးလည်း မမှတ်မိတော့ဘူး။ မမှတ်မိတော့ သူတို့ အကျိုးပေးနိုင်သလား။ ဗုဒ္ဓမြတ်စွာက စေတနာဆိုတဲ့ကံဟာ ချုပ်သွားတယ်၊ မှန်တယ်။ ပျောက်သွားတယ်။ ကိုယ်တောင် မမှတ်မိဘူး။ ဟိုဘဝများစွာက ပြုတဲ့ဥစ္စာတွေ ဘယ်နည်းနဲ့မှ မမှတ်မိဘူး။ သို့ပေမယ့် ဘာကျန်နေတုံးဆိုတော့ ကမ္မသတ္တိ ကျန်နေတယ်။ ဒီကမ္မသတ္တိက အင်မတန်ကောင်းတယ်။ သတ္တိ အင်မတန်ကျန်နေတယ်။

**သတ္တိချင်းမတူဘူး** ဘာဖြစ်လို့ ကမ္မသတ္တိကျန်မှန်း သိရတုံးဆိုတော့၊ ဘုရားရှိခိုးနေတဲ့လူ ဆယ်ယောက်လောက်မှာဘဲ တစ်ယောက်က စေတနာသိပ်ထက်သန်တယ်။ တစ်ယောက်က ပထမလူလောက် မထက်သန်ဘူး။ ဒုတိယလူလောက် နောက်တစ်ယောက်က မထက်သန်ဘူး။ အဲဒီလူက တတိယ ဖြစ်သွားပြန်ပြီ။ စေတနာက ဆယ်ယောက်မှာ စေတနာ ၁၀ ခု တန်းထားလိုက်၊ စိတ်ကူးနဲ့ အကုန်လုံးချုပ်သွားတာဘဲ။ သို့ပေမယ့် သတ္တိချင်းမတူဘူး၊ လိုက်နေတာပါ။ ကမ္မသတ္တိလို့ခေါ်တယ်။ ဒါကို သိဒ္ဓေယျသိဒ္ဓ။ ဘုရားကို ယုံကြည်ပြီးတော့၊

http://www.dhammadownload.com



နောက်အနုမာနနဲ့ ယုံကြည်ရမှာ ရှိတယ်လေ။ အဲဒီတော့ လိုက်ပြီးတော့ လာနေတာ၊ ဘုန်းကြီးတော့ မသိဘူးပေါ့။ ဒါပေမယ့်လို့ ဘုန်းကြီးရဲ့ ခန္ဓာအစဉ်မှာတော့ သူက လိုက်နေတယ်။

**သတ္တိတွေက ဘယ်လိုလုပ်လိုက်နေတုံး** သတ္တိတွေ အများကြီး။ အဲဒီ သတ္တိတွေ အများကြီးထဲက စိတ်တစ်ခု ချုပ်သွားလို့ ရှိယင် သတ္တိတွေက ဘယ်လိုလိုက်နေတုံးဆိုတော့ ဘဝ များစွာကပြုလာတဲ့ ကမ္မသတ္တိ ဒီမှာလည်း ပါနေ တယ်ဆိုပါတော့။ စိတ်မှာလည်းဘဲ စိတ်မှာ၊ ရုပ်မှာလည်းဘဲ ပါနေတယ်။ စိတ်ချုပ်သွားပြန်၊ ရုပ်ချုပ်သွားပြန်တော့ ဒီစိတ် ဒီရုပ်ထဲမှာ သတ္တိက ပါနေတယ်။ သတ္တိလိုက်နေတာ။ အခု ဘုန်းကြီးပြောတာ နားလည်သလား။ စိတ်တွေ ရုပ်တွေ ချုပ်သွားပေမယ့်လို့ ကမ္မသတ္တိက လိုက်ပြီးတော့နေတယ်။ သတ္တိကနော်၊ အရာဝတ္ထု မဟုတ်ဘူးနော်၊ သတ္တိနော်။

**ဒေါက်တာ နှစ်ဦး မတူ** ဆိုပါတော့။ ဒေါက်တာဟာ လူ မမာကို စိတ်ချမ်းသာအောင် လုပ်တတ်တဲ့သတ္တိရှိတယ်။ အပြောကလေးနဲ့ ပြောတတ် တယ်။ သူက ချိုချိုလေးပြောလိုက်ယင် ဟိုက သဘောကျ။

http://www.dhammadownload.com



ဒါ သတ္တိပဲ။ လူတိုင်း ဒီလိုပြောတတ်ရဲ့လား။ သတ္တိရှိရဲ့လား။ သူက ဆေးတို့ဘာတို့ထိုးခါနီး ဆေးပေးခါနီးမှာ ဒီဆေး လေးဟာလေ ဆိုပါတော့ နမရယ် ဒီဆေးကလေး သောက် လိုက်လို့ရှိယင် စိတ်တွေ ချမ်းသာပြီးတော့ ရုပ်တွေ ကောင်းလာမှာပါ၊ အပြောကောင်းတော့ သောက်ပြန်ရော။ မသောက်ချင်ဘူးဆိုပေမယ့် အဲဒါတွေက သတ္တိတွေ ပါလာတာ။ အဲဒီသတ္တိဟာ ဘယ်ကရတုံးဆိုတော့ အမေ အဖေက သင်ပေးလိုက်တာ မဟုတ်ဘူး။ ဘဝများစွာက လိုက်နေတာ၊ ပြုခဲ့တဲ့ ဘဝက ကောင်းတဲ့ ကမ္မသတ္တိတွေက လိုက်နေတာ။ တစ်ယောက် ကတော့ ဒီလိုသတ္တိတွေက သိပ်ပြီး မထင်ရှားတော့ သောက်ချင်သောက်၊ မသောက်ချင် နေလေ။ ဝတ္တရားအတိုင်း ပြောတဲ့ဥစ္စာဘဲ။ ဒီဆေးထိုး၊ မခံချင်ဘူးလား၊ မခံချင်ဘူး။ အရူးက မခံချင်မထိုးဘူး။ ငါကတော့ ဝတ္တရားဘဲ၊ ပြီးပြီးတာဘဲ။ ဒီမှာ သူက သတ္တိက သိပ်မလိုက်လာဘူး။

**ဘဝများစွာက သတ္တိတွေလိုက်လာ**

သတ္တိက အရာဝတ္ထုလားဆိုတော့၊ အရာဝတ္ထု မဟုတ်ဘူး။ ဘဝများ စွာက ဖြစ်ဖြစ်၊ ဒီဘဝမှာ ဖြစ်ဖြစ် သူရဲ့ဝါသနာအလိုက် ပြုထားတဲ့ စိတ်တွေရဲ့ ဓာတ်သတ္တိတွေ၊ ဒီမှာလိုက်တာဘဲ၊ သတ္တိတွေ အများကြီးရှိတယ်။ ဒီဘဝတင်

http://www.dhammadownload.com



မဟုတ်ဘူး၊ ဘဝများစွာက သတ္တိတွေ လိုက်လာတယ်၊ ဆိုပါတော့ သေခါနီးရောက်နေပြီ၊ ခုနက သတ္တိတွေ ပျောက်သွားသလား၊ မပျောက်ဘူး။ သေတော့မလို့ ကပ်နေပြီ၊ သတ္တိတွေ ပျောက်မလား၊ မပျောက်ဘူး။

**ကလေးကို ငယ်ငယ်ကပြုစု** သတ္တိလိုက်ပုံကို ဘုန်းကြီးကြားဖြတ်ပြီး တစ်ခု ပြောအုံးမယ်။ ကလေး တစ်ယောက် ဖွားမြင်လာတော့ အမေက လိမ်လိမ်မာမာနဲ့ သားကလေးကို အအေးအပူမျှတအောင် ထိန်းတယ်။ ကျန်းမာရေး ဆေးကလေးတွေ၊ သူငယ်နာဆေးတွေ ပေးတယ်။ သူ့နို့ရည်ကောင်းယင်လည်း သူ့နို့ရည်ကို တိုက်တယ်။ မကောင်းလို့ရှိယင် ဘေးက နို့ရည်ကိုဝယ်ပြီးတော့ ကောင်းကောင်း ဖြစ်အောင် တိုက်တယ်။ နောက်တစ်အိမ်က ဒီလောက်လည်း မတတ်နိုင်ရှာဘူး၊ အမေကလည်း ဒီလောက် မလိမ္မာလှဘူး၊ မလိမ္မာတော့ ဖြစ်သလိုဘဲ၊ ငိုတဲ့အခါ သူတိုက်ချင်တဲ့အခါ တိုက်တယ်၊ အားတဲ့အခါတိုက်တယ်။

**ဆေးသတ္တိပါနေ** ကံချင်းက အတူတူ ထားလိုက်နော်။ နောက်တော့ ၅ နှစ် လောက်ကြာတော့ တစ်ယောက်က ကျန်းကျန်းမာမာနဲ့၊ တစ်ယောက်က

http://www.dhammadownload.com



ချူချူချာချာနဲ့ ဖြစ်နေပြီ။ ဘာကြောင့်ဖြစ်နေသလဲ။ အမေက မွေးဖွားတဲ့နှစ် တစ်နှစ်–နှစ်နှစ်မှာ သိပ်ဂရုစိုက်တာဘဲ။ ဂရုစိုက်တဲ့ဆေး ပါသေးသလား၊ ၅–နှစ်သားအရွယ်မှာ ဆေးတော့မပါဘူး။ ဘာပါနေတုံး၊ သူ့ရဲ့ဆေးသတ္တိက ပါနေတယ်။ သတ္တိတော့ ပါတယ်၊ ဆေးတော့ မရှိပါဘူး။ ဒေါက်တာတို့ ရှာချင်တိုင်းရှာ၊ ဆေးရော အရာဝတ္ထုရော။ သတ္တိတောင် ရှာလို့မရဘူး။ ဒါပေမယ့် သတ္တိပါနေလို့ ကျန်းမာရေး အခြေအနေ နှစ်ယောက် မတူကြဘူး။

**အယုအယနှင့် ပစ်စလက်ခတ်** တစ်ဖန် တစ်ယောက်ကတော့ အမေက ယုယလိုက်တာ၊ တစ်ယောက် ကတော့ ပစ္စည်းကလည်းမရှိလို့မို ပစ်စလက်ခတ် ထားလိုက်တာဘဲ။ အမလေး ပစ်စလက်ခတ် ကလေးလေးက မာလိုက်တာ။ ပိုယုယတဲ့ ကလေးက ချူချာလိုက်တာ။ ဒီလို ဖြစ်ပြန်ရောမဟုတ်လား။ ပစ်စလက်ခတ်ထားတဲ့ ကလေးက တောက်တောက် တောက်တောက်နဲ့ သွားနေတော့ ဥတုဇရုပ်က အပူလည်း ခံနိုင်တယ်။ အအေးလည်း ခံနိုင်တယ်။ စားလိုက်တာကလည်း အမေက ဆင်းဆင်းရဲရဲ ဆိုတော့ကို ထမင်းကို တဝကျွေးတာဘဲ။ အဲဒီကလေး၊ ဆင်းရဲတဲ့ ကလေး မာနေပြန်ရော။ သူ့ကံချင်းက မတူဘူး။

http://www.dhammadownload.com



**ကျန်းမာ မကျန်းမာ** ကလေးမှာ ငယ်ငယ်တုန်းက အပြုအစုတွေ ဘာတွေ အမျိုးမျိုးပြု ပေမယ့်လို့ ကံရဲ့သတ္တိက လိုက်တာဘဲ။ အမေအဖေပြုစုတဲ့ သတ္တိကလည်း လိုက်တာဘဲ။ အဲဒါ အရာဝတ္ထု ရှိရဲ့လားဆိုတော့ မရှိပါဘူး။ အမေအဖေပြုစုတဲ့ ပစ္စည်းတွေ လည်း အကုန်လုံး ကုန်ပြီ။ ဒါပေမယ့် ၅ နှစ်ကျတော့ ထူးလည်း မပြုစုပါဘူး။ ဒါပေမယ့်လို့ ကျန်းမာတယ်။ ဟိုတစ်ယောက်က မမာဘူး။ တစ်ခါ ပြောင်းပြန် ပြန်လိုက်။ ဆင်းရဲတဲ့သူက ဟိုသွား ဒီသွား၊ နေပူခံ၊ အအေးခံ၊ မာလို့ ဒေါက်ဒေါက် ဒေါက်ဒေါက်။ ဟိုက ယုယတဲ့ ဥစ္စာက အယုအယ မတတ်ဘဲကိုး။ တကတည်း အိမ်ရိပ်မိပြီးတော့ လောင်းရိပ်မိပြီးတော့ ကလေးချူချာလို့။

**ဘာကွာသလဲ** အဲဒါ ဘာကွာလို့တုံးဆိုတော့၊ ကံချင်းလည်း ကွာတယ်။ ပြီးတော့ ဘေးက ပတ်ဝန်း ကျင် မိဘ အမှီအခိုကလည်း ကွာတယ်။ အဲဒါကြောင့် မတူကြတာ။ ဒီအထဲမှာ အရာဝတ္ထုရှိသလား၊ မရှိဘူး။ မရှိယင် လုံးလုံး သတ္တိမပါတော့ဘူးလား၊ သတ္တိပါတယ်။ တစ်ခါ မိဘ များကပြုစုတဲ့ အစာအာဟာရတွေရဲ့ သတ္တိက မပါဘူးလား၊ ပါတယ်။ သူတို့မှာ ကျန်းမာတယ်၊ မမာဘူး။ ကွာနေတာ သတ္တိ။ အရာဝတ္ထုမရှိပေမယ့်လို့ သတ္တိက လိုက်တယ်။

http://www.dhammadownload.com



**အတတ်ချင်းမတူ** တစ်ခါ ပြောအုံးမယ်။ ငယ်ငယ်တုံးက မူလတန်းတို့ အလယ်တန်းတို့မှာ ဆရာ ကောင်းကောင်းနဲ့ သင်ပေးလိုက်တယ်။ အခြေခံ ရအောင် သင်ပေးလိုက်တယ်။ တစ်ဦးက မူလတန်းမှာ ခပ်ညံ့ညံ့ဆရာနဲ့ သင်ခဲ့တယ်။ အထက်တန်းကျတော့ သူတို့နှစ်ယောက် ဉာဏ်ချင်းအတူတူ၊ သင်အားချင်းလည်း အတူတူ၊ အတတ်ချင်း မတူပြန်ဘူး။ ဘာလို့မတူတုံး၊ ဟိုတစ်ယောက်က ဆရာကောင်းကောင်းက သင်ပေး လိုက်တာ၊ သင်ပေးလိုက်တဲ့ပညာတွေ ကိုယ်မှာပါသလား၊ မပါဘူး။ ဘာပါတုံး၊ သတ္တိပါနေတယ်။ အဲဒီတော့ သတ္တိဆိုတဲ့ဥစ္စာဟာ လိုက်နေတာဘဲ။

**ပါရမီပြည့်ပြီဆိုတာ** ဘုန်းကြီး ဖြတ်ပြောလိုက်မယ်။ ဗုဒ္ဓမြတ်စွာက လေးသင်္ချေနဲ့ ကမ္ဘာ တစ်သိန်း ပါရမီဖြည့်တော့မှ သဗ္ဗညုတဉာဏ်တော်ကို ရတယ်။ လေးသင်္ချေနဲ့ ကမ္ဘာတစ်သိန်းဆိုတာ အင်မတန် ကြာတာ၊ အင်မတန်ကြာတဲ့ ကာလတလျှောက်လုံး ဖြစ်- ဖြစ်-ဖြစ်- ဖြစ်ပြီးလာတဲ့ ဒါနပါရမီတို့၊ သီလပါရမီတို့၊ ခန္တီ ပါရမီတို့၊ အဲဒီပါရမီတွေ ပစ္စည်းအဖြစ်နဲ့တော့ ကုန်သွားပြီ၊ ပျောက်သွားပြီ။ သတ္တိအဖြစ်နဲ့က အကုန်လုံး ပါလာလို့မို့၊ နောက်ဆုံးဘဝကျတော့ ပါရမီပြည့်ပြီဆိုတာ

http://www.dhammadownload.com



ဒီသတ္တိတွေ ပြည့်တာဘဲ၊ သတ္တိတွေပြည့်တော့ ဗုဒ္ဓမြတ်စွာရဲ့ ဉာဏ်တော်ကို ရတာဘဲ၊ သတ္တိလိုက်တာကို သိပြီနော်။

**သေခါနီးမှာ** ကဲ–ခုနက ပြန်ပြောကြစို့။ သေခါနီးရောက် သွားပြီ သတ္တိတွေ မပါဘူးလား၊ ပါမယ် နော်။ သတ္တိတွေ ပါနေပြီ။ သေခါနီးကို အင်မတန် ကပ်နေပြီ။ လက်ဖြောက်တစ်ချက်တီး ကုဋေ တစ်သိန်းလို့ ဆိုတော့ လက်ဖြောက်တစ်ချက်တီးတော့ မကသေးဘူး၊ ကျန်တော့ကျန်သေးတယ်။ ကပ်တော့ ကပ်နေပြီ။ သိပ်ကပ် နေပြီ။ ကံရဲ့ကမ္မသတ္တိတွေက ပါနေပြီ။ သေခါနီး လက်ဖြောက် တစ်ချက်တီးလောက် လိုတဲ့အချိန်မှာ ပတ်ဝန်းကျင် ဆွေတွေမျိုးတွေက ငိုကြတယ်။ ငိုသံ သူ့နားထဲ ဝင်လာတယ်၊ အသံလေးဝင်လာတော့ သူ့စိတ်ဟာ ဆွေမျိုး တွေကို နည်းနည်းငဲ့စောင်းတဲ့စိတ် မဖြစ်ပေဘူးလား၊ ဖြစ်တယ် နော်။ အဲဒီအခါမှာ ခုနက သတ္တိကလည်း လိုက်ရက်နော်။

**အကျိုးပေးမယ်လို့ အဖော်စောင့်** ကံတွေက အမျိုးမျိုး။ အကောင်းတွေ လည်း ပါမယ်၊ မကောင်းတွေလည်း ပါတယ်။ ဒီအချိန်မှာလေ ကောင်းတဲ့ ကံတွေကလည်း အကျိုးပေးမယ်လို့ အဖော်ကောင်းကောင်း

http://www.dhammadownload.com



စောင့်နေတယ်။ မကောင်းတဲ့ကံတွေကလည်း အကျိုးပေးမယ်လို့ အဖော်ကောင်းကောင်း စောင့်နေတယ်။ သေခါနီးဆွေတွေ မျိုးတွေရဲ့ ငိုသံကလေး ကြားလိုက်တော့ စိတ်က အဲဒီထဲ ဝင်စားလိုက်တာ၊ တစ်ခါတည်း ဝင်စားပြီးတော့လည်း သေရော၊ ဆွေမျိုး သံယောဇဉ်က ဦးဆောင်သွားတာဖြစ်တော့ မကောင်းတဲ့ ကံကလည်း အနားမှာ ရှိနေတာဖြစ်တော့ မကောင်းတဲ့ကံက အကျိုးပေးလိုက်တာ တစ္ဆေ ဖြစ်သွားတယ်။

**ထင်တဲ့အာရုံအလိုက်** မကောင်းတဲ့ကံက အကျိုးပေးတယ်ဆိုတာ ဟိုဘဝလည်းရောက်ရော၊ ခုနက ကမ္မဇရုပ်သုံးစည်းက ဟိုမှာ တစ်ခါတည်း ဖြစ်တာဘဲ။ ပြီးတော့ သူ့ရဲ့ စိတ်ဝိညာဉ်မှာလည်းဘဲ ဝိပါက်က တစ်ခါတည်း ပေးတာဘဲ။ အဝေးကြီးပေးနေတာ မဟုတ်ဘူး၊ ကပ်ရက်။ စုတိစိတ်ရဲ့ ရှေ့နားက ထင်တဲ့အာရုံအလိုက်ကံက အကျိုးပေးရတာ။ ဒီတော့ ကံတွေက လိုက်လာတယ်။ ထင်တဲ့ အာရုံအတိုင်း အကျိုးပေးတယ်။ အဲဒီ ထင်တဲ့အာရုံက အကူအညီရလို့မို့၊ ဟိုဘဝကို လိုက်သွားတာ မဟုတ်ဘူး။ သတ္တိနဲ့ ဟိုမှာ အကျိုးပေးတာ။ ဒီကံ အကောင်အထည်ကြီး လိုက်သွားတာ မဟုတ်ဘူး။ ကမ္မသတ္တိက ဟိုဘဝမှာ တစ္ဆေ ဖြစ်ဖို့ရန် အကျိုးပေးတယ်။

http://www.dhammadownload.com



**သေဝမှာ ကပ်နေတဲ့ကံ** တစ်ခါ တစ်ယောက်တော့ သေခါနီးကျတော့ ဘေးကပေါ့လေ ကိုယ့်နည်းကိုယ့်ဟန်နဲ့ တရားစကားတွေ ပြောနေကြတယ်။ တရား စကားသံတွေ ကြားနေတုန်းမှာဘဲ နောက်ဆုံးစိတ်၊ သေတဲ့စိတ်ပေါ့လေ၊ စုတိစိတ်ဖြစ်တယ်။ ကောင်းတဲ့ကံ အကျိုးပေးတာဘဲ။ ဘာပြုလို့ အနားကပ်နေတဲ့ကံက အကျိုးပေးတာလဲ၊ နွားခြံမှာ နွားတွေ ဘယ်လောက် များနေပေမယ့် နွားအိုကြီးဘဲဖြစ်ဖြစ် ခြံတံခါးဝမှာ ကပ်နေတဲ့နွားက ခြံဖွင့်လိုက်တာနဲ့ အရင်ဆုံး ထွက်တာဘဲ။ ခုလည်းဘဲ ကံတွေ အမျိုးမျိုးမှာ သေခါနီး သေပေါက်ဝမှာ စုတိဆိုတာ သေပေါက်သေဝဘဲ။ အဲဒီ သေပေါက်ဝမှာ ကပ်နေတဲ့ကံက အကျိုးပေးတာဘဲ။ ဒါကြောင့် ဘယ်လို အကျိုးပေးသတုံး၊ ဘယ်လိုလိုက်သတုံးဆိုတာ အဲဒီနည်းနဲ့ လိုက်တယ်။

**သေခါနီးမှာ သတိထား** ဒါကြောင့်မို့လို့ သေခါနီး ဘေးက အပေါင်း အဖော်တွေ ကောင်းဖို့ လိုတယ်နော်။ ဘေးက စကားအပြောတွေ လိုကိုလိုတယ်နော်။ မငိုကြနဲ့နော်၊ သူ့ဆီ မသွားကြနဲ့နော်နဲ့။ သတိပေးနေတဲ့ ဥစ္စာဟာ အမှားအယွင်းတွေ ဖြစ်ပြီးတော့ မကောင်းကံတွေ အခွင့်ရမှာစိုးလို့ တားမြစ်နေကြတာ။

http://www.dhammadownload.com



ဒါကြောင့် ဘာသာရေးတရားဖြစ်တဲ့ ဗုဒ္ဓတရားကို လိုက်စားစမ်းပါ။ ပညာတစ်ရပ်အဖြစ်နဲ့ အင်မတန်မှ သေချာပါတယ်လို့ ပြောနေတာ။

## မေးခွန်း (၁၀)

မေး။ ။ ရုပ်ကကော ဘယ်လိုပြောင်းပါသလဲ။

ဖြေ။ ။ ရုပ်လည်းမပြောင်းဘူး၊ရုပ်လည်းမပြောင်းဘူး။

**ကံကြောင့် ရုပ်သစ်ဖြစ်** ဒီဘဝမှာ လူပင်ဖြစ်သော်လည်း နောက်ဘဝ ပြိတ္တာ ဖြစ်မယ်ဆိုယင် ပြိတ္တာရုပ်၊ တခြားသပ်သပ် ကံက အကျိုးပေးတယ်လေ။ ကံက ဝိပါက်ဝိညာဉ်ကိုလည်း အကျိုးပေးတယ်။ ခုနက ကမ္မဇကလာပ်သုံးစည်းဟာ သူ့ကြောင့်ဖြစ်ပေါ်လာတာဘဲ။ ရုပ်က ဆက်သွားတာမဟုတ်ဘူး။ သူ့ကြောင့် ပေါ်လာတဲ့အတွက်ကြောင့်မို့လို့၊ ဒီကရုပ်တွေ ပြောင်းသွားလို့ မဟုတ်ဘူး။ ဒါပေမယ့် ကံကြောင့် ရုပ်သစ်တွေဖြစ်တယ်။

**ဒီဘက်က ဓားခုတ်ရာ ဟိုဘက်မှာပါနေ** တစ်ခါ ထပ်ပြီးတော့ မေးစရာရှိတယ်။ ဓားခုတ်ရာနဲ့ လူဟာ

http://www.dhammadownload.com



ဟိုဘက်ဘဝကျတော့ သူ့မှာ အဲဒီ ဓားခုတ်ရာ ပါသွားတယ်။ အဲဒီဟာက ဘုန်းကြီးသိပ်မမိဘူးနော်၊ သိပ်မမိပေမယ့်လို့ စိတ္တဇရုပ်က ဓာတ်ချင်းက ဆက်နေသေးတယ်။ စိတ်က ဟိုသယ်သွားတာတော့ မဟုတ်ဘူး။ မဟုတ်ပေမယ့်လို့ ဓာတ်ချင်းက ဆက်နေတော့ ကလေးမှာ ဓားခုတ်ရာလေး ဘာလေး တွေ့နေတယ်။ အဲဒီထိအောင်တော့ ဘုန်းကြီး ပိုင်ပိုင်နိုင်နိုင် မပြောနိုင်ဘူး။ မပြောနိုင်ပေမယ့် အဲဒီလို ဆက်တဲ့ဥစ္စာ ဒီကရုပ် ပါသွားတာတော့ မဟုတ်ဘူး။

**ရုပ်ချင်းကျေးဇူးပြု** ခုဘဝမှာဘဲ ၁၀ နှစ် သားတုန်းက ဓားခုတ်ရာနဲ့လက်ဟာ ၁၁ နှစ်သားကျတော့ ဒီအရာက ပါလာတာမဟုတ်ဘူး၊ ရုပ်သစ်ပဲ။ ဒါပေမယ့် ဓာတ်ချင်း ဆက်တော့ ဟိုမှာ အရာကလေးက ပါရက်ပါရက်ဘဲ။ ဒီက ဓားခုတ်ရာက ရုပ်တွေက ဟိုမှာ ဓားခုတ်ရာအဖြစ်နဲ့ ဆက်တာမဟုတ်ဘူး။ ရုပ်ချင်း ကျေးဇူးပြုလိုက်တော့ ဒီကအရာကလေးနဲ့ဆိုင်တဲ့ ရုပ်ကလေးတွေပဲ ဟိုမှာသွားပြီးတော့ ဖြစ်တယ်။ ဟိုဘက်ဘဝကျတော့ ရုပ်သစ်ပေမယ့်လို့ ဒီက စိတ်ဓာတ်ကလည်း ဆက်ရက်ဖြစ်နေတယ်၊ ဓားခုတ်ရာလေး ဘာလေး ပါသွားတယ်ဆိုတာ ဖြစ်နိုင်လောက်တယ်လို့၊ ဒီလိုတော့ ဘုန်းကြီးက နားလည်ထားတယ်။

http://www.dhammadownload.com



## မေးခွန်း (၁၁)

**မေး**။ ။ ငယ်ရွယ်သော ကလေးအချို့သည် သင်ကြားခြင်းမရှိဘဲ ကျမ်းစာများကို ရွတ်ဆိုနိုင်ခြင်း၊ အထက်တန်းကျသော အတွက်အချက်များကို ပြုလုပ်နိုင်ခြင်းတို့ကို မြန်မာပြည်၌လည်းကောင်း၊ နိုင်ငံခြား၌လည်းကောင်း တွေ့ရပါသည်။ အဘယ်ကြောင့် မသင်ဘဲ တတ်မြောက်ပါသလဲ။

**ဖြေ**။ ။ ၁၀ နှစ်သားတုန်းက သင်ထားတဲ့ ပညာဟာ ဆိုပါတော့ အသက် ၂၀ လောက်မှာ သူတချို့ရွတ်နိုင်တယ်၊ ဖတ်နိုင်တယ်။ ဒါဖြင့် ၁၀ နှစ်သားတုန်းက ရုပ်ရှိသလားလို့ဆိုတော့၊ အသက် ၂၀ မှာ မရှိဘူး။ ၁၀ နှစ်သားတုန်းက စိတ် ရှိသလားလို့ဆိုတော့ အသက် ၂၀ မှာ မရှိဘူး။ မရှိပေမယ့်လို့ သူရွတ်နိုင်တယ်၊ ဖတ်နိုင်တယ်၊ မှတ်နိုင်တယ်ပေါ့လေ။

**အဝိဇ္ဇာဖုံးတော့မှ မေ့** အဲဒီလိုဘဲ၊ သေခါနီးမှာ သူ့အလေ့အကျင့်ကလည်း များလာတဲ့စာတွေ ဆိုတော့ကာ သေပြီးတော့ ဘဝကြီး တစ်ခုလို ချောင်းခြားနေတာ မဟုတ်ဘူး၊ စိတ်တစ်ခုနဲ့ တစ်ခု ပြောင်းသလိုဘဲ၊ စုတိစိတ် ပဋိသန္ဓေစိတ် ဆက်ရက်ဘဲ။

http://www.dhammadownload.com



ဆက်ရက်ဆိုတော့ကာ အများစုကတော့ တတ်သင့်တယ်။ ရပြီးသားတွေကို ရသင့်တယ်။ သို့ပေမယ်လို့ စုတိတဲ့အချိန်မှာ ပဋိသန္ဓေ ရဖို့ရန်အချိန်မှာ အဝိဇ္ဇာ တဏှာတွေက အင်မတန်လွှမ်းနေတာမို့ မေ့ကုန်တာ။ အများစုကတော့ ရကိုရသင့်တယ်။ ဒီလိုရလောက်အောင်ကို သတ္တိက ဆက်နေတာ။ သို့ပေမယ့်လို့ အဝိဇ္ဇာကဖုံးလွှမ်းထားတော့ အများစုတော့ မေ့သွားတယ်။

**ဇာတိဿရဉာဏ်** လူအနည်းငယ်ကတော့ ရတယ်။ ရတာဟာ ဘာမှ မဆန်းဘူး။ ခုနက အဝိဇ္ဇာရဲ့ ဖုံးလွှမ်းမှု နည်းလို့ သူမှတ်မိနေတာဘဲ။ ရွတ်နိုင်နေတာဘဲ၊ တတ်နေတာဘဲ။ ဘယ်သူမှ မပြောဘဲနဲ့လည်း သူ့ဒီစာတွေကို တတ်နေတာဘဲ။ အများစုက အဝိဇ္ဇာသိပ်ဖုံးတယ်။ သဘာဝကတော့ ဘယ်လောက်မှ ဝေးတာမဟုတ်ဘူး။ အများစုဟာ ပြန်တတ်ဖို့တော့ ကောင်းတယ်။ သို့ပေမယ့်လည်း အဝိဇ္ဇာက သိပ်ဖုံးသွားတော့ မတတ်ဘူး။ သူတို့ကျတော့ အဝိဇ္ဇာရဲ့ အဖုံးလည်း နည်းတယ်။ ပြီးတော့ ကံကြောင့် ဇာတိဿရဉာဏ်ဆိုတဲ့ ဉာဏ်ကလည်း သူတို့မှာ ရနေတယ်။ ဒီတော့ ဟိုဘဝကို အောက်မေ့နိုင်တာရော ဘာရော စုပေါင်းပြီးတော့ စာတွေကို မသင်ဘဲနဲ့ တတ်တယ်၊ ရွတ်နိုင်တယ်၊ ဖတ်နိုင်တယ်။

6(A)

http://www.dhammadownload.com



**ရှုတ်နိုင်သလောက် ဉာဏ်မကြီး** ရှုတ်နိုင်ဖတ်နိုင်သလောက်များ ဉာဏ်ကြီးမယ်တော့မထင်နဲ့၊ တစ်ခါတလေ ရှုတ်နိုင် ဖတ်နိုင်တာဘဲ ရှိတယ်။ စဉ်းစားဉာဏ်တွေ ဘာတွေ မရှိတတ်ဘူး။ ကြီးယင် မေ့သွားမယ်၊ ကြီးယင်မေ့တယ်ဆိုတာ ကြားထဲမှာ ဟိုအာရုံ ဒီအာရုံတွေက ဖုံးသွားပြီ။ ဖုံးသွားတော့ ပြောစမ်းပါ ဆိုတော့ မပြောနိုင်ဘူး။

**ကြာယင်မေ့** တစ်ခါတလေ လူဝင်စားတွေပေါ့လေ၊ စကားပြောတတ်တဲ့အချိန်မှာ သူ့ဟာ သူ ဟိုတုံးက ဘယ်သူပဲ၊ ဒီပစ္စည်းတွေဟာ သူ့ပစ္စည်း တွေဘဲ၊ သူပြောနိုင်တယ်။ နောက်တော့ လေးနှစ် ငါးနှစ် ကြာတော့ မေးလို့မရဘူး။ တချို့ကတော့ ရှက်လို့ မပြော ဘူးလို့ပြောတယ်၊ မဟုတ်ဘူး၊ မေ့ကိုမေ့သွားတာ။ ကြားထဲမှာ စိတ်တွေက အများကြီး ဖြစ်နေတာ ဖြစ်တော့ကို၊ ဒီအာရုံချည်း မဟုတ်တော့ဘူး။ ဒီ့ပြင် အာရုံ တွေနဲ့ မေ့ကို မေ့လောက်တယ်။ ပြီးတော့ ဖြစ်တဲ့အထဲမှာ အကုသိုလ်စိတ်တွေက များလို့ရှိယင် အဝိဇ္ဇာက အမြဲ ပါနေတာဘဲ။ ဒီတော့ မေ့တာဘဲ။

## မေးခွန်း (၁၂)

**မေး။** ။ စိတ်ရောဂါတွေမှာ စိတ်လှုပ်ရှားမှုက အလွန် များပါတယ်၊ အဲဒီတော့ စိတ်ငြိမ်ခဲ့လို့ရှိယင်

http://www.dhammadownload.com



နည်းနည်းပါးပါး ပုတီးစိပ်တာ တရားထိုင်တာ ကောင်းပါသလား။

**ဖြေ။** ။ စိတ်က မလှုပ်ရှားဘူး၊ အာရုံတွေ အမျိုးမျိုးရောက်နေတဲ့ဥစ္စာကို တင်စားပြီးတော့ စိတ်လှုပ်ရှားတယ်လို့ ပြောတာ။ အာရုံအမျိုးမျိုး ပြောင်းပြောင်း ပြောင်း ပြောင်းပြီးတော့ အာရုံကို ယူနေတာကို စိတ်လှုပ်ရှားတယ်လို့ ပြောတာ။

**စိတ်ငြိမ်တယ်လို့ဆိုတာ** အဲဒီလို အာရုံပြောင်းနေတဲ့ လူတစ်ယောက်ဟာ ပုတီးဘဲစိပ်စိပ် တရားဘဲ နှလုံးသွင်းသွင်း။ ဆိုပါတော့ ထာဝရဘုရားကိုးကွယ်တဲ့ သူက ထာဝရဘုရားကို "ဘုရား ဘုရား ဘုရား" လို့ ဆိုပြီးတော့ စိပ်လိုက်လို့ သမာဓိက အာရုံတစ်ခုတည်းဖြစ်သွားပြီ။ ဗုဒ္ဓ ကိုးကွယ်တဲ့ သူကလည်း ဗုဒ္ဓကို "အရဟံ အရဟံ အရဟံ" လို့ ဆိုတော့ အာရုံက တစ်ခုတည်း ဖြစ်သွားပြီ။ ဒါစိတ်ငြိမ်တယ်လို့ ဆိုတာပေါ့။ တကယ်လို့များ သုစာဝါသနာပါလို့ရှိယင် စာလေး ဖတ်နေပါဆိုလည်း စိတ်ငြိမ်သွားမှာဘဲ၊ အာရုံများတာပါ၊ စိတ်က လှုပ်ရှားတာမဟုတ်ပါဘူး။

http://www.dhammadownload.com



## မေးခွန်း (၁၃)

**မေး။** ။ ကမ္မဋ္ဌာန်းထိုင်တော့ အာရုံ နည်းသွားပါသလား။

**ဖြေ။** ။ လူတိုင်းတော့ မဖြစ်ဘူး။ သူတို့ အလေ့အထရနေတဲ့ အာရုံတစ်ခုကို ဆိုပါတော့ ထာဝရဘုရားကို အာရုံများနေတဲ့ သူတစ်ယောက်ကို ဂေါတမဗုဒ္ဓကို အာရုံပြုပြီးတော့ ပုတီးစိပ်ပါဆိုလို့ မရဘူး။ အဲဒါ ပုတီးစိပ်စိပ်၊ ဘာစိပ်စိပ်။ ထာဝရဘုရားဟာ ဘယ်လောက်အကျိုးများတယ်၊ သူက အဲဒီဟာ ကိုးကွယ်နေတာဖြစ်တော့ကို အဲဒါလေးကို စိတ်ထဲ မှတ်နေစမ်းပါဆိုယင် ငြိမ်သွားတာဘဲ၊ မမှတ်နိုင်ယင် မငြိမ်ဘူး။

**သမာဓိရလျှင် စိတ်ငြိမ်** ထွက်သက်ဝင်သက်ဆိုတဲ့ ကမ္မဋ္ဌာန်းက စိတ်ငြိမ်အောင် လုပ်တာ။ ဒါလေး **မှတ်နေစမ်းပါ၊ တစ်မိနစ်မှာ ဘယ်နှစ်ခါ** လောက်များ ရှူသတုံးလို့။ ဘယ်နှစ်ခါလောက်များ ရှိုက်သတုံးလို့ဆိုတာ။ အဲဒါလေး မှတ်နေလို့ရှိယင် ဒီနေ့အဖို့ စိတ်တွေက အင်မတန် ချမ်းသာသွားမယ်လို့ ပြောတယ်လေ။ ဒီဟာမှတ်လည်း စိတ်ကပြန့်ပြီးတော့ ဟိုအာရုံ ဒီအာရုံက

http://www.dhammadownload.com



ပြန်ဆုတ်လာတာဘဲ။ အာရုံတစ်ခုမှာ ကြာကြာနေယင် ဒါ သမာဓိရတယ်လို့ ဆိုတာဘဲ၊ စိတ်ငြိမ်တယ်။

## မေးခွန်း (၁၄)

**မေး။** ။ တရားတော်မှာ စိတ်က တစ်ကြိမ်မှာ ၂ ခု ဖြစ်ပါသလား။

**ဖြေ။** ။ မဖြစ်ဘူး။

## မေးခွန်း (၁၅)

**မေး။** ။ သာမန်အားဖြင့်တော့ တပည့်တော်ကို့ တရားနားထောင်နေတဲ့အခါမှာ အိမ်ကို လည်း စိတ်ကူးလို့ ရသလား။ ဒါဘယ်လိုများ စိတ်ကူး ပါသလဲ။

**ဖြေ။** ။ စိတ်တွေက မြန်တယ်မဟုတ်လား။ စိတ်တွေက အင်မတန်မြန်တော့ကာ၊ တရားကိုဘဲ အာရုံပြုပြီးတော့နေတာကို၊ ထားတော့၊ ခုနက ထွက်သက်ဝင်သက်ဆိုတဲ့ဟာ အင်မတန် [illegible]

http://www.dhammadownload.com



ကြိုးစားနေတာ မဟုတ်လား။ အင်မတန် ငြိမ်အောင် ကြိုးစားယင်းကဘဲ အိမ်ကို ရောက်နိုင်တာဘဲ၊ စိတ်က မြန်လွန်းအားကြီးလို့ လက်ဖြောက်တစ်ချက်တီးမှာ ကုဋေ တစ်သိန်းမကဆိုတော့ ကုဋေတစ်သိန်းမက ဆိုလို့ရှိယင် အာနာပါနကိုဆိုပါတော့၊ ကုဋေတစ်ရာလောက် အာရုံပြုတယ် ဆို၊ အိမ်မှာလည်းဘဲ ကုဋေတစ်ရာလောက် သွားနိုင်တာဘဲ။

## မေးခွန်း (၁၆)

မေး။ ။ စိတ်ညို့တာ ဗုဒ္ဓဘာသာက ဘယ်လိုပါလဲ၊ အနောက်နိုင်ငံမှာတော့ လုပ်နေကြတယ်။

ဖြေ။ ။ဘုန်းကြီးက မဖြစ်ဘူးလို့ မဆိုလိုဘူး။ စိတ်ညို့တဲ့ကျမ်းကို ဘုန်းကြီးက မလေ့လာဘူးလို့။ ဖြစ်နိုင်တာပေါ့လို့ ဘုန်းကြီးက ဝန်ခံတယ်။ ဘယ်လိုဖြစ်နိုင်တယ်လို့ ဘုန်းကြီး မပြောနိုင်ဘူး။ ဗုဒ္ဓဘာသာကျမ်းကလည်း ကန့်ကွက်မှာ မဟုတ်ပါဘူး။ ဖြစ်နိုင်တဲ့အရာမှန်သမျှကို ဗုဒ္ဓဘာသာက မကန့်ကွက်ဘူး။

## မေးခွန်း (၁၇)

မေး။ ။ ဘုရားတပည့်တော်တို့ အနောက်နိုင်ငံမှာ စိတ်ညို့ပြီး တဖြည်းဖြည်း ငယ်ရွယ်တဲ့

http://www.dhammadownload.com



ဘဝ မေ့ပြီးတော့ နောင်သုံးဘဝအထိ မေးခဲ့တာကို အနောက်နိုင်ငံမှာ တွေ့ရပါတယ်။ အဲဒီဥစ္စာတွေဟာ သူတို့က လက်တွေ့မှ ယုံတယ်။ အဲဒါကို ကြည့်ခြင်းအားဖြင့် ဘဝကူးတယ်ဆိုတာ ဘဝအဆက်ဆက် ရှိတယ်ဆိုတာ ယုံလောက်အောင် ဖြစ်နေပါတယ်။ ရေးတဲ့ပုဂ္ဂိုလ်ကလည်း ဒါမျိုးမယုံတဲ့သူက ရေးတာ။ ဒီဥစ္စာကို ဟုတ်မဟုတ် လိုက်စုံစမ်းတဲ့ဥစ္စာဟာလည်း မယုံတဲ့သူက စုံစမ်းတာ။ သူတို့ ကတော့ လက်တွေ့နဲ့ညှိပြီတော့ ယုံတယ်၊ ဘုရား တပည့်တော်တို့ ဗုဒ္ဓဘာသာကတော့ ဘဝကူးတယ်ဆိုတာ ပြောလို့မရဘူး၊ လက်တွေ့ပြနိုင်ရမယ်။

ဖြေ။ ။ လွန်ခဲ့တဲ့ဘဝကို အောက်မေ့တဲ့ ဇာတိဿရ ဉာဏ်ဆိုတာ ရှိတယ်။ ဘုန်းကြီးတို့ ဘုရား အလောင်း တစ်ချိန်က ရှင်ဘုရင် လုပ်ခဲ့တယ်။ ရှင်ဘုရင် လုပ်ခဲ့တဲ့ဘဝ ပြီးတဲ့နောက် မတရားမှုတွေများလို့ ငရဲကို ကျတယ်။ နောက် ငရဲကလွတ်တော့ နတ်ပြည်မှာဖြစ်တယ်။ နတ်ပြည်ကပြန်တော့ တေမိမင်းသား ဖြစ်တယ်။ ထီးဖြူ အောက်မှာနေယင်း ထီးဖြူကြီး မြင်ရာကစပြီးတော့ ကြားထဲက ဘဝတွေ သူအကုန်လုံး သတိရသွားတယ်။ ရှင်ဘုရင်လုပ်တဲ့ဘဝအထိ သတိရသွားတယ်။ ရှင်ဘုရင် လုပ်တဲ့ ဘဝတုံးက အမျိုးမျိုးသော အမှုတွေ ပြုတဲ့အခါ

http://www.dhammadownload.com



အကုသိုလ်တွေလည်း ပါလာတာမို့ ငရဲကျတယ်ဆိုတဲ့ ငရဲဒုက္ခတွေပါ သတိရတယ်။ အဲဒါကို ဇာတိဿရဉာဏ်လို့ ခေါ်ပါတယ်။

ဇာတိဿရဉာဏ် လူတိုင်း ရသလားလို့ဆိုတော့ လူတိုင်းမရဘူး။ ခုနက စိတ်ညှို့ဆရာကြီးတွေရဲ့ ညှို့တဲ့ ညှို့ဓာတ်ကြောင့် တတိယဘဝအထိ ညှို့လို့ သူတို့သိနိုင်တယ်လို့ဆိုတယ်။ ဒါဖြစ်နိုင်တယ်။ ဖြစ်နိုင်ပေမယ့်လို့ ဘယ်နှစ်ယောက်စမ်းသပ်ယင် ဘယ်နှစ်ယောက်ဖြစ်တယ်ဆိုတာ လိုက်ဖို့ကောင်းတယ်။ တချို့ ဖြစ်ကိုမဖြစ်နိုင်ဘူးလို့ ဘုန်းကြီး ယူဆတယ်။

## မေးခွန်း (၁၈)

**မေး။** ။ သူတို့မှာတော့ လူတိုင်းကို ညှို့လို့မရဘူး၊ ညှို့လို့ရပေတဲ့ လူတိုင်းဟာ အရှည်ကြီး မပြောနိုင်ဘူး။ ဥပမာ လူတိုင်းကိုတောင် မိအောင် မညှို့နိုင်ဘူး။ အညှို့ခံရတဲ့ ပုဂ္ဂိုလ်ကနေပြီးတော့ ခုနက စာအုပ်ထဲမှာ ပါလာတဲ့ ပထမတစ်ယောက်၊ သူ့မှပဲ မေးလို့ရတယ်။ သူကတော့ နည်းနည်းမေးကြည့်ပြီးတော့ နောက်ကျတော့ နောင်ဘဝပြီးတဲ့နောက်ဘဝကို မေးတယ်။

http://www.dhammadownload.com



**ဖြေ**။ ။ ဇာတိဿရဉာဏ်ကို သူတို့က ဇာတိဿရ သညာနဲ့ ကူပေးနေတာ၊ ရပါတယ်။ ဒါကို ဗုဒ္ဓဘာသာကလည်း **ဆန့်ကျင်ဘက်** မဖြစ်ပါဘူး။ ခုနက မမြင်ဘူးလား။ **တောမိမင်းသားဟာ** ခုဘဝတောင်မကဘူး၊ လေးဘဝလောက်။ စာထဲမှာပါတာက လေးဘဝကို။ က–ချင်မှ ကမယ်။ ငရဲမှာ ခံရတာတွေ အကုန်လုံး သူမြင်တယ်။

**ဗုဒ္ဓဘာသာက** အကုန်လုံးမြင်လို့မို့ ထီးနန်းကြီး ထီးဖြူ **မကန့်ကွက်** ကြီး ရောက်လာတော့ လူကြီးပြော ပြောလို့ရှိယင် ကြက်သီးတွေများ ထပြီး တော့ သိပ်ကြောက်ပြီးတော့ ဒီထီးဖြူကြီးကို သူဆောင်းရတဲ့ ထီးနန်းကို မလိုချင်ဘူးဖြစ်ပြီးတော့ တစ်ခါတည်း ထီးနန်းမရအောင် အ–အ လေးလုပ်၊ အဆွံ့ကလေးလုပ်၊ ဘာပြောပြော မကြားတဲ့ နားထိုင်းကလေး လုပ်ပြီးတော့ မိဋ္ဌာန်လိုက်ပါတယ်။ **အဲဒါ** ငရဲခံရတာတွေ**ပါ အ**ကုန်လုံး သူမြင်တယ်။ ဘာဖြ**စ်လို့** ငရဲခံရတုံးဆိုတော့ ရှင်ဘုရင် လုပ်ခဲ့လို့။ လာပြန်ပြီ **ဒီထီး**ဖြူ၊ ငါ ငရဲခံရတော့မှာဘဲ ဆိုပြီးတော့ တစ်ခါတည်း ထိပ်လန့်သွားတာဘဲ။ အဲဒီတော့ မြင်နိုင်ပါတယ်။ ဘုန်းကြီးတို့ ဗုဒ္ဓဘာသာက ခုနက စိတ်ညှို့ဆရာတွေက သညာနဲ့ မှတ်ထားလို့ ဒါကို မကန့်ကွက်နိုင်ပါဘူး။

http://www.dhammadownload.com .



## မေးခွန်း (၁၉)

**မေး။** ။ ဗုဒ္ဓဘာသာမှာ အမျှဝေခြင်း၊ ဆုတောင်းခြင်း၊ မေတ္တာပို့ခြင်းဆိုတာ ဘယ်လို အကျိုး ရှိပါသလဲ။

**ဖြေ။** ။ မေတ္တာပို့တာ ပြောကြစို့။ မေတ္တာက ဘုန်းကြီးလည်း အင်မတန် အားကိုးတယ်။ ဆိုပါတော့လေ ဒကာစိန်ဝင်းက ဘုန်းကြီးကို တမင်တော့ ပို့ချင်မှပို့မယ်။ မြင်တယ်ဆို မေတ္တာရောက်နေပြီ။ ဘုန်းကြီး ကလည်း ဒကာစိန်ဝင်းကို မြင်တယ်ဆိုယင် မေတ္တာ ရောက်နေပြီ။ တမင်ပို့တာတောင် မဟုတ်သေးဘူး။ ဒီတော့ စကားပြောတို့ဘာတို့မှာ အမှား ပြောလည်း သည်းခံတယ်။ အမှန်ပြောလည်း လက်ခံတယ်။ မေတ္တာဟာ ဒီလောက် သတ္တိရှိတယ်။

**ဗုဒ္ဓ၏မေတ္တာတော်** ဗုဒ္ဓမြတ်စွာတို့လို အလေ့အထ ရပြီးသားပုဂ္ဂိုလ်တွေရဲ့ မေတ္တာ ဟာ အလွန်ကို ကြီးကြီးကျယ်ကျယ် သတ္တိရှိတယ်။ နာဠာဂီရိဆင်ကြီးက ဗုဒ္ဓမြတ်စွာကို နင်းသတ်ဖို့ရန် ခါတိုင်း အရက်တစ်လုံး တိုက်တဲ့ဥစ္စာဟာ ၁၆–လုံးလောက် တိုက်ပြီးတော့ ဘုရားကြွလာမယ့်လမ်းကို လွှတ်ထားတယ်။

http://www.dhammadownload.com



ဗုဒ္ဓမြတ်စွာရဲ့ မေတ္တာက ဟန်ဆောင်မေတ္တာ မဟုတ်ဘူးလေ၊ အင်မတန်ကြီးကျယ်တဲ့ မေတ္တာနဲ့ အာရုံ ပြုပြီးတော့ နေလိုက်တာ၊ ဒီနားလည်းရောက်ရော တစ်ခါတည်း ဒူးတုပ်ပြီးတော့ ဆင်တုပ်ပေါ့လေ။ ဆင်တုပ်–တုပ်ပြီးတော့ နေရှာတယ်။ မေတ္တာဟာ အဲဒီလောက် သတ္တိရှိတယ်။ အဲဒီလောက် စွမ်းတယ်။ စေတနာရဲ့ သတ္တိရှိသလိုပေါ့။ မေတ္တာလည်း မေတ္တာနည်းနဲ့ သတ္တိသိပ်ရှိတာဘဲ။

**စာသင်သားဘဝ** မေတ္တာဟာ မေတ္တာစစ်မှ ကောင်းတယ်။ စာသင်သား ဘဝတုန်းက ဘုန်းကြီးက ဆွမ်းဟင်းမရဘူး။ မေတ္တာကိုတော့ သိပ်ယုံကြည်တယ်။ ဘုန်းကြီးက ညကျတော့ ဆွမ်းခံလမ်းက အိမ်တွေကို မှန်းပြီးတော့ မေတ္တာပို့တယ်။ ဘာဖြစ်လို့ ပို့တုံးလို့မေးယင် ဆွမ်းဟင်းလေး ဘာလေး ရအောင်လို့ ပို့တာဘဲနော်၊ မေတ္တာပို့တယ်။ မနက်ဖြန်ကျတော့ တစ်ခါတစ်ရံ ဆွမ်းလောင်းတတ်တဲ့ သူက ဆွမ်းဟင်း လောင်းတယ်။ ငါ့မေတ္တာတော်တော် စူးရှတာဘဲ။ နောက်တစ်ရက်ကျတော့ အဲဒီအိမ်က မလောင်းဘူး။ ဘုန်းကြီးက ငါ့မေတ္တာ ဘယ့်နှယ် ဖြစ်သွားပါလိမ့်။ ဘယ့်နှယ်မှ မဖြစ်နဲ့လေ၊ ငါကလည်း သူတို့ ချမ်းသာစေဖို့ထက် ငါချမ်းသာစေဖို့က အရေးကြီးတဲ့မေတ္တာ၊ ဘယ်လို စူးမှာတုံးလို့။ အဲဒီလို အနေမျိုးနဲ့ ဖြေခဲ့တယ်လေ။

http://www.dhammadownload.com



**နွားမကြီး၏ မေတ္တာ** မေတ္တာဟာ တကယ့်စေတနာနဲ့ပို့တဲ့ မေတ္တာဖြစ်ရမယ်။ တစ်ခါတုံးက နွားမကြီးက နွားကလေးကို နို့တိုက်နေတယ်။ နို့တိုက်နေတဲ့ ဥစ္စာဟာ သားကလေးအပေါ်မှာ မေတ္တာ အင်မတန်ကြီးကျယ် မနေပေဘူးလား။ အဝေးက လှံနဲ့လှမ်းပြီးတော့ ထိုးတာ၊ လှံရွက်ဟာ ထန်းရွက်လိုဘဲ ပျော့ကျသွားတယ်၊ မစူးဘူး။ ဒါမေတ္တာ ရဲ့အစွမ်းနော်၊ မေတ္တာရဲ့အစွမ်း။ ခုနကလိုပေါ့လေ၊ မရိုးမသား ဆိုယင်တော့လည်း ဘုန်းကြီးလို ဖြစ်ချင် ဖြစ်မှာပေါ့။ ရိုးရိုးသားသားနဲ့ မေတ္တာတွေဟာ တော်တော် စွမ်းပါတယ်။ တော့်တော့ကို စွမ်းပါတယ်။

**အမျှဝေတယ်ဆိုတာ** အမျှဝေတယ်ဆိုတဲ့ ဥစ္စာက ဒီလို၊ ဘုန်းကြီးတို့ စာထဲမှာ ပတ္တိဒါန၊ ကိုယ်ရတဲ့ အလှူဒါနကို ကိုယ်ပြုတဲ့ အလှူဒါနကို သူတို့ လည်းဘဲ ကိုယ်ကသိုလ်ရသလို ရကြပါစေတော့လို့ ဆိုတာ ကို အမျှဝေလို့ ခေါ်တယ်။ အဲဒီ အမျှဝေတာက အရာရာ အကြောင်းညီညွတ်မှ အကျိုးရတယ်။

**သီလမရှိသူကိုလှူပြီး အမျှမဝေနဲ့** လူတစ်ယောက် သူ့ရဲ့ဆွေမျိုးက ဟိုဘက်ဘဝရောက်သွားပြီ၊အိပ်မက် ကလေး ဘာလေး ပေးလို့မို့ ဘဝ

http://www.dhammadownload.com



လွဲနေပြီ ဆိုတာလည်း သူသိပြီ။ ဒါကြောင့် **သူကိုးကွယ်တဲ့** ဘုန်းကြီးကို ပင့်ပြီးတော့ ဆွမ်းကျွေးတယ်။ **ဆွမ်းကျွေးတော့** အမျှ–အမျှ လို့ **ဆိုတော့** ဟိုကလည်း သေသေချာချာ သာဓုခေါ်မယ်လို့ စောင့်နေတာ၊ ဒါပေမယ့် ဘာမှမရဘူး။ ထပ်ပြီးတော့ အိပ်မက်ပေးပြန်တယ်။ ခုန ဘုန်းကြီးပဲ ပင့်ပြီးတော့ ဆွမ်းကျွေး အမျှဝေတယ်၊ မရဘူး။ တတိယ ခုလိုဘဲ အိပ်မက်ပေးဟန်တူတယ်။ တတိယအကြိမ် အမျှဝေတော့ ငါ့အတွက် ရမယ့်ပစ္စည်းကို ဒုဿီလကြီး စားသွားပြီလို့ အိပ်မက်ပေးတယ်တဲ့။ သူကိုးကွယ်တဲ့ ဘုန်းကြီးက သီလမရှိဘူး။ သီလမရှိတဲ့သူကို လှူဒါန်း အမျှဝေတော့ ဟိုမှာ အမျှမရဘူး။ သာဓုခေါ်မယ်လို့ကို စောင့်နေတာ၊ မရဘူး။

**သံဃာလှူပြီး အမျှဝေပါ** ဘုန်းကြီးက ဘာကို လေ့လာတုံး၊ ဘာကို ပောတုံးဆိုယင် ပုဂ္ဂိုလ်ကိုလှူပြီးတော့ အမျှမဝေနဲ့။ ဘယ်ပုဂ္ဂိုလ်မှ စိတ်မချရဘူး။ ဒီတော့ သံဃာကိုလှူပါ၊ သံဃဿ ဒေမ၊ ဆွမ်းတစ်အုပ်နဲ့ သံဃဿ ဒေမ လုပ်ပါ။ သံဃာကို လှူပြီးတော့ အမျှဝေလို့ရှိယင် အမျှရပါတယ်။

**တောင်သမန် ကျောင်းအမကြီး** ဒါနဲ့စပ်ပြီးတော့ ဝတ္ထုတစ်ခု ပြောမယ်။ မှတ်စရာတွေမို့လို့ အားလုံးမှတ်ရအောင်၊

http://www.dhammadownload.com



ဘုန်းကြီးတို့ တောင်မြို့မှာဘဲ၊ ဘုန်းကြီးတို့ အရင်က တံတားကူးပြီးတော့ ဟိုဘက်မှာ ကျောင်းတိုက်တစ်တိုက် ရှိပါတယ်။ တောင်သမန်တိုက်လို့ ခေါ်ပါတယ်။ အဲဒီ ကျောင်းဒကာ ကျောင်းအမကြီးတွေက အင်မတန် သူတော်ကောင်းတွေ။ ကျောင်းဒကာကြီးက အစောကြီးဆုံးတဲ့ လက္ခဏာရှိတယ်။ ကျောင်းအမကြီးက အင်မတန် သူတော်ကောင်းတယ်။ ကျောင်းလည်းဆောက်တယ်။ နွေအခါကျတော့ ရေအိုးတွေလည်းတည်တယ်၊ အများ သောက်ဖို့။ ဒါနဲ့ သူ့ကို ကျောင်းအမကြီးဆိုတဲ့ နာမည်ထက် ရေချမ်းအမကြီးလို့ နာမည်တွင်နေတယ်။

**သေခါနီးငိုကြွေလို့ တစ္ဆေဖြစ်** နောက် ဒီဒကာမကြီး ဆုံးသွားတယ်၊ ဆုံးသွားတော့ ပထမ အသုဘပြုတဲ့ နေရာမှာ ကုသိုလ်တွေ ပြုတယ်။ နောက်တစ်ခါ ရက်လည်ဆွမ်းဆိုပြီးတော့ ကျွေးတယ်။ ကျွေးတော့ ခုနက သူကိုးကွယ်တဲ့ ဆရာတော်ကြီး ကြွလာပြီးတော့၊ တရားတွေ ဟောတယ်၊ ပြီးတော့ အလှူ ဒါနတွေကို ရေစက်ချပြီးတော့ အမျှဝေကြတယ်။ အဲဒီလို အမျှဝေပြီးတော့ ဆရာတော်ကြီး ပြန်သွားရော၊ ပြန်သွားတော့ ဘုန်းကြီးတို့နားမှာ တံတားရှိတယ်မဟုတ်လား၊ အင်းကြီး ကူးတဲ့တံတား။ တံတားကို တော်တော်သွားမိတဲ့ အခါ

http://www.dhammadownload.com



ကျတော့ 'ဆရာတော်ဘုရား ဆရာတော်ဘုရား' လို့။ ဟဲ့ တို့ကျောင်းအမကြီး အသံပါလားလို့၊ 'ဟုတ်တယ်ဘုရား၊ ဟုတ်တယ်ဘုရား။' ဘာဖြစ်နေတုံး။ 'တပည့်တော် သေခါနီးမှာ ဆွေမျိုးတွေက သားတွေ သမီးတွေကပေါ့လေ ငိုကြလို့။ သေခါနီးနော် ငိုကြလို့၊ သူတို့ကို စွဲလမ်းသွားပြီး တော့ တပည့်တော် တစ္ဆေပြိတ္တာ ဖြစ်နေတယ်ဘုရား။' ကျောင်းအမကြီး သူတော်ကောင်းကြီး တစ္ဆေပြိတ္တာ ဖြစ်နေတယ်။

**ရေတံခွန်တောင် ခေါ်သွားလို့**

'သချိုင်းမှာ လူကြတန်းကြတုံးက တပည့်တော် ဘာမှ မသိလိုက်ပါဘူး။ တပည့်တော်အဖော် တစ္ဆေတွေက ရေတံခွန်တောင်ကို ခေါ်သွားလို့မို့ တပည့်တော် ဘာမှ မသိလိုက်ပါဘူး။' တစ္ဆေတွေကလည်း အင်မတန် ညစ်တယ်။ ဒီလို ဂုဏ်ရှိ သိန်ရှိ ကျောင်းအမကြီးက လိုချင်ယင် ဟိုက ဆွမ်းကပ်ကြ၊ ဘာလုပ်ကြ၊ အဲဒီလို ကျွေးကြမွေးကြမို့။ သူတို့လည်း စားရသောက်ရမယ် မဟုတ်လား။ ဒီလို ဂုဏ်ရှိသိန်ရှိ တစ္ဆေကို ကျွတ်သွားမှာသိပ်စိုးတယ်။ ပြိတ္တာ ပေါ့လေ၊ ကျွတ်သွားမှာ သိပ်စိုးတယ်။ ဒါကြောင့် ရေတံခွန်တောင် ခေါ်သွားကြတယ်။ ရေတံခွန်တောင် သက်သက်ကို ခေါ်သွားတော့ ဒီက အလှူအတန်းတွေ ဘာမှ မသိရဘူး။

http://www.dhammadownload.com



**အမျှရလို့ ကျွတ်သွား** နောက်တော့ သူတို့က မခေါ်ခင် ဖြစ်ဖြစ်၊ ဘာဖြစ်ဖြစ်ပေါ့လေ၊ ဆွမ်းသွတ်မယ်လို့ဆိုတော့ အမေကြွပါ–လာပါ၊ ဖိတ်မှာ ပေါ့လေ၊ အဲဒါနဲ့ သူရောက်တယ်။ ကနေ့တော့ ဆရာတော် ဘုရား ဟောတော်မူတဲ့ တရားတွေလည်း ကြားရပါတယ်၊ နာရပါတယ်၊ အမျှလည်း ရပါတယ်ဘုရား။ တပည့်တော် ခုဘဲ ကျွတ်တော့မယ်ဘုရားလို့၊ အသံပျောက်သွားတာဘဲ။ ဒီတော့ အမျှဝေတာက အကျိုးရှိတဲ့သူမှာတော့ သိပ်ရှိတယ်။ အကျိုးမရှိတဲ့ သူတွေတော့ မရှိပါဘူး။

**စနစ်တကျ အမျှဝေ** ဝတ်ကျေတန်းကျေ အမျှဝေ၊ ပြီးတော့ တငိုငို တရီရီနဲ့ အမျှဝေ၊ စိတ်က လည်း မပါ့တပါ။ ပြီးတော့ သားလည်းမဟုတ်၊ သမီးလည်း မဟုတ်တဲ့ လူတွေက ဝင်ပြီးတော့ အမျှဝေ။ ဟိုကလည်း **စိတ်**ချမ်းသာ ချင်မှ ချမ်းသာမယ်။ တကယ်လို့ ပြိတ္တာ **ဖြစ်**နေယင်ပေါ့လေ၊ ပြီးတော့လည်း ပြိတ္တာ မဖြစ်လို့ လူ့ဘောင်ရောက်နေယင်လည်း ဒီအမျှတွေ အပိုပါဘဲ၊ မရပါဘူး။ ဒါကြောင့် အမျှဝေတယ်ဆိုတဲ့ ဥစ္စာကလည်း အခြေအနေကြည့်ပြီးတော့ အမျှဝေကြပါ။ ပြီးတော့ သံဃာကို လှူပြီးတော့မှ အမျှဝေပါ။ ပုဂ္ဂိုလ်တစ်ပါးလှူယင် ကိုယ့်

http://www.dhammadownload.com



ကျောင်းထိုင်ဘုန်းကြီးက ဟန်ချင်မှ ဟန်မှာပါ။ အဲဒါ ကြောင့်မို့လို့ ပုဂ္ဂိုလ်ကို မရွေးပါနဲ့။ သံဃဿ ဒေမ–လို့ ဆိုပြီးမှ အမှူဝေကြပါလို့ ဘုန်းကြီးက ပြောလေ့ရှိတယ်။

**ဆုမတောင်းပါဘူး မိဋ္ဌာန်တာပါ** ဆုတောင်းတာ ဗုဒ္ဓမြတ်စွာ ဘုရားဖြစ်ဖို့ရန် ဆုတောင်းတယ်လို့ သူတို့ဆိုတယ်။ အမှန်ကတော့ တပည့်တော် ဘုရားဖြစ်ရလိုပါရဲ့လို့ ဆုမတောင်းပါဘူး။ အောက်ကျ နောက်ကျ ဒီလို မလုပ်ပါဘူး။ ဒါပေမယ့်လို့ ဗုဒ္ဓေါ ဟေဿံ – ငါဘုရားဖြစ်မယ်။ သတ္တဝါတွေကို ကယ်ဆယ်နိုင်တဲ့ အရည်အချင်းရှိတဲ့ ပုဂ္ဂိုလ်တစ်ပါးက သာမန် ကျွတ်တန်းဝင် ပြီးတော့ ရဟန္တာဖြစ်သွားလို့ရှိယင် ဒီသူတွေမှာ အကျိုးမဲ့ ဖြစ်မှာပေါ့။ ငါ့လို အရည်အချင်းရှိတဲ့ ပုဂ္ဂိုလ်တစ်ပါးက ကိုယ်လွတ်ရုန်းသွားယင် မတရားဘူး။ လမ်းမကျဘူး။ အများကိုကယ်ပြီးတော့မှ ဗုဒ္ဓေါ ဟေဿံ – ဘုရားဖြစ်မယ်။ ဒီလို မိဋ္ဌာန်တဲ့ လက္ခဏာပါ။ တစ်ခါ တလေ ဗုဒ္ဓေါ–ဘုရားသည်၊ ဘဝါမိ–ဖြစ်ရပါလို၏ လို့ ဒီလို ဆုတောင်းမျိုးတော့ ဘယ်နည်းနဲ့မှ မတွေ့ဘူး။

**ဆုလည်းတောင်း အလုပ်လည်းလုပ်** ဒါကြောင့် ဆုတောင်းဟာ စိတ်ရဲ့ အကြောင်းအရာကို ထုတ်ဖော်ပြီး

http://www.dhammadownload.com



တော့ ပြောတာပါ။ စိတ်ရဲ့ အကြောင်းအရာကို ထုတ်ဖော်ပြီးတော့ ပြောတယ်ဆိုတော့ ရချင်မှလည်း ရမယ်။ တချို့ အလုပ်လုပ်မှ ရမယ်။ ဆုတောင်းရုံနဲ့တော့ ဘယ်သူမှ မရနိုင်ဘူး။ သို့သော်လည်း ဆုလည်းတောင်းပေါ့၊ အလုပ်လည်းလုပ်ပေါ့၊ ဘုရားဖြစ်ချင် လို့ရှိယင် ဆုတောင်းချင်လည်း တောင်းလေ။ ဘုရားဖြစ်လောက်တဲ့ အလုပ်ကိုလည်း လုပ်ပါလေ။ အဂ္ဂသာဝက ဖြစ်ချင်လို့ရှိယင် ဆုတောင်းလည်း တောင်းပါလေ။ အဂ္ဂသာဝက ဖြစ်လောက်တဲ့ အလုပ်ကိုလည်း လုပ်ပါလေ။

**ယသောဓရာ၏ ရှေးကောင်းမှု** ဘုန်းကြီးတို့ ဗုဒ္ဓမြတ်စွာမှာ အတူပါလာတဲ့ ယသောဓရာဟာ ဘုရားအလောင်းက ဘုရားဖြစ်ဖို့ ဆုလည်းမတောင်းသေးဘူး။ ဗျာဒိတ်လည်း မပေးသေးဘူး။ ရသေ့က ကောင်းကင်က ပျံလာတာနော်၊ တန်ခိုးဣဒ္ဓိပါဒ်နဲ့နော်။ သူနဲ့ ဘာမှမဆိုင်ဘူး။ ဒီဘဝမှာ ဘယ်နည်းနဲ့မှ မပေါင်းရဘူး။ အဲ ဒါပေမယ့်လို့ မြင်မြင်ချင်း သူ့မှာ ဘုရားပူဇော်ဖို့ ပါလာတဲ့ ကြာစည်း ၈–စည်းထဲက ၅–စည်းကို ရသေ့လက်ထဲ ထည့်ပြီးတော့ 'ဘုရားပူဇော်ပါ' အနေမျိုးနဲ့၊ သုံးစည်းကို သူယူပြီးတော့ ဒီပင်္ကရာ ဘုရားကို ပူဇော်တယ်။

http://www.dhammadownload.com



**စိတ်ကညွတ်နေတယ်** ဘုန်းကြီးက ကျေနပ်လိုက်တာ၊ ကြာလှူတာတောင်မှ ဘုရားအလောင်းကို အသာပေးပြီးတော့ ငါးစည်းပေးတယ်။ သူက ၃–စည်းယူပြီးတော့ ဝေတယ်။ ပြီးတော့ သူက ဘုရားအလောင်းရဲ့ အလုပ်အကျွေးဖြစ်ဖို့ရန် သူ့နှုတ်က ဆုတောင်းသလား၊ မတောင်းသလားတော့ မသိဘူး။ စိတ်က ကောင်းကောင်း ညွတ်နေတယ်။ ဗုဒ္ဓမြတ်စွာကို ကြာစည်းကို လှူပြီးတော့၊ ဗုဒ္ဓမြတ်စွာကပဲ ဗျာဒိတ်ပေးတော်မူတယ်။ ဒီကြာစည်းလှူတဲ့ အမျိုးသမီးက ပါရမီကို အတူလိုက် စောင့်ရှောက်ပြီးတော့၊ ဖြည့်တဲ့ ပါရမီကို မပျက်အောင် သူက စောင့်ရှောက်ပြီးတော့ လိုက်လာတဲ့အမျိုးသမီး ဖြစ်လိမ့်မယ် လို့ ဗုဒ္ဓမြတ်စွာကပဲ ဗျာဒိတ်ပေးတော်မူခဲ့တယ်။ သူက ဘယ်လို ဆုတောင်းသလဲတော့ မသိဘူး။ စိတ်ကတော့ သိပ်ညွတ်သွားတယ်။

**ဆုတောင်းချည်း အားမကိုးနဲ့** ဒါကြောင့် ဆုတောင်းချည်းတော့ အားမကိုးနဲ့။ ဆုတောင်းချည်း အားကိုးလို့ရှိယင် အများစုတွေဟာ ဘုရားတွေ ဖြစ်ကြမှာပေါ့၊ ဘာမှမဖြစ်ပါဘူး။ ဘုရားမပြောနဲ့၊ ဟိုဘဝ နတ်ပြည်ရောက်ဖို့တောင် ဆုတောင်းကြည့်စမ်း၊ မရပါဘူး။ အမှန်ကတော့ ဆုတောင်းဆိုတာ စိတ်ညွတ်တာပါ။ စိတ်ညွတ်တာကို နှုတ်နဲ့ ဖော်ထုတ်ပြီး ပြောတာဘဲရှိတယ်။

http://www.dhammadownload.com



## မေးခွန်း (၂၀)

**မေး။** ။ စိတ်ဟာ ဦးနှောက်မှာ ဖြစ်တယ်လို့ နိုင်ငံခြား ပါရဂူများက ဆိုကြပါတယ်။ ဗုဒ္ဓဘာသာမှာ ဟဒယဝတ္ထု (နှလုံး) မှာ ဖြစ်တယ်လို့ ကြားဖူးပါတယ်။ ရှင်းပြတော်မူပါ။

**ဖြေ။** ။ သူတို့အယူကို ဘုန်းကြီးက မသိဘဲနဲ့တော့ မရှင်းနိုင်ဘူး။ ဘုန်းကြီးတို့လည်း ဘုန်းကြီးတို့နည်းနဲ့ပေါ့လေ။ ဟဒယဝတ္ထု ရှိတယ်လို့ ဆိုပေမယ့် စိတ်က ဒီမှာ အကောင်အထည် မှီသလို မှီနေတာ မဟုတ်ဘူး။ ခုနက ဘုန်းကြီး ပြောပြီမဟုတ်လား။ ပဋိသန္ဓေ နေကတည်းက ဟဒယဆိုတဲ့ ဝတ္ထုရုပ် ပါလာတယ်၊ အဲဒီ ပဋိသန္ဓေနေတုန်းက ဘယ်မှာ ဒီလို ရင်ခေါင်း ဘာခေါင်း ရှိအုံးမလဲ။ ဟဒယဝတ္ထု ပါလာတယ်။ အဲဒီဝတ္ထုရုပ် ရှိလို့မို့ စိတ်က ဖြစ်နိုင်တယ်၊ ဝတ္ထုရုပ် မရှိလို့ရှိယင် ကာမရူပဘုံမှာ စိတ်မဖြစ်နိုင်ဘူး။

**ဆရာရှိလို့ တပည့်ကြီးပွားသလို** ဒါကြောင့် ဆရာရှိလို့ တပည့်ကြီးပွားတယ်။ ဆရာမရှိယင် တပည့် မကြီးပွားဘူး။ တစ်ခါ

http://www.dhammadownload.com



တပည့်က ဆရာကို မှီနေတယ်။ မိဘရှိလို့ သားသမီး ကြီးပွားတယ်။ မိဘမရှိယင် သားသမီး မကြီးပွားဘူးလို့ ပြောတယ်။ ဒီတော့ သားသမီးက မိဘရင်ခွင်ထဲမှာ နေတာ မဟုတ်ဘူး။ သူ့ကို မှီတယ်လို့ဆိုတဲ့ ဥစ္စာကလည်း မှီကပ်နေတာ မဟုတ်ဘူး။ စကားသဘောအားဖြင့် ဖြစ် အောင် ပြောနေတာ။ အမှန်ကတော့ မိဘကို အကြောင်း ပြုပြီးတော့ သားသမီးကြီးပွားတယ်။

**ဒီလိုသာ ယူဆ** အဲဒါကြောင့် ဟဒယဝတ္ထုကို မှီတယ်ဆို တာ ဟဒယဝတ္ထု၏ အပေါ်မှာ စိတ်က တည်နေတာ မဟုတ်ဘူး။ ဟဒယဝတ္ထုရှိလို့ ဘုန်းကြီးတို့ နိဿယပစ္စည်းနဲ့ မှီရာလို့ ခေါ်နေတာ။ သူမရှိယင် ကာမရူပဘုံမှာ မဖြစ်ဘူး ။ ဒါကြောင့် မှီတယ်လို့ ပြော တာ။ ဦးနှောက်ထဲ စိတ်က ရောက်သွားတာ မဟုတ်ဘူး။ ဦးနှောက်ရှိလို့ စိတ်ဖြစ်နေတာဘဲ။ ဒီလိုသာ ယူဆရမယ် လေ။ ဟဒယဝတ္ထုရှိလို့ စိတ်ဖြစ်နေတာဘဲ။

**ဆရာကို တပည့်က မှီတဲ့သဘောမျိုး** ဟဒယဝတ္ထုအပေါ်မှာ ခုနက ဆရာ ကို တပည့်က မှီတဲ့အမှီမျိုး သဘော ထားပါ။ ဆရာကို မှီနေတဲ့ဥစ္စာ၊ ဘုန်းကြီး ဘယ်မှမသွားနဲ့နော်၊ တပည့်တော် လဲသွားလိမ့်

http://www.dhammadownload.com



မယ်။ ဒီလိုမှီတာမျိုးမဟုတ်ဘူး။ ဆရာက ဟိုကျောင်းနေတယ်၊ သူက ဒီကျောင်းနေပေမယ့်လို့ ဆရာ့ကို မှီနေတာဘဲ၊ ဆရာ့စကား နားထောင် နေတာဘဲ။ မိဘကို မှီနေတယ်ဆိုတာ မိဘက ဟိုအိမ်နေတယ်၊ သူက ဒီအိမ်နေတယ်။ မိဘမှီပြီးတော့ သူကြီးပွားရတာဘဲလို့ ပြောတယ်။ ပြောပေမယ်လို့ မိဘအပေါ်မှာ သူမှီနေတာ မဟုတ်ပါဘူး စိတ်ကလည်း ဒီလိုမှီတာ မဟုတ်ဘူး။ ဟဒယဝတ္ထုကို မှီပြီးတော့ နေတာ မဟုတ်ဘူး။ ဟဒယဝတ္ထုတို့ ဦးနှောက်တို့ ရှိလို့သာ စိတ်တွေဖြစ်တာ၊ အဲဒီလို မှတ်သားပါ။

**ဦးနှောက်** ဘုန်းကြီးကတော့ ဦးနှောက်လို့ ပုံမှန် မယူဆဘူး။ ဘာဖြစ်လို့တုံးဆိုတော့ ကဗန္ဓိပြိတ္တာဆိုတာ ရှိတယ်။ ကဗန္ဓိပြိတ္တာဆိုတာ ခေါင်းမပါဘူး၊ ခေါင်း မပါဘဲနဲ့ စိတ်တော့ ဖြစ်နေတာဘဲ။ အမှန်က ဦးနှောက်မှီတဲ့စိတ်မျိုးတော့ မဟုတ်ပါဘူး။ ဒါဘုန်းကြီး ယူဆတာလေ။ ဒီပြင်သူတွေကို ဘယ့်နှယ်ညာ့နှယ် မပြောချင်ပါဘူး။

**ဘုန်းကြီးတို့လက်ခံထား** ဟဒယဝတ္ထုကို ဘုရားက ဝတ္ထုလို့သာ ဟောတာ၊ ဟဒယလို့ မဟောဘူး။ ဓမ္မသင်္ဂဏီမှာ ဝတ္ထုရုပ်လို့ ဟောတယ်။

http://www.dhammadownload.com



မိရာဝတ္ထုရုပ်။ ဒီ ဟာဒယမှာတို့ ဘာတို့ ဆိုတဲ့ဥစ္စာက ကျမ်းစာတွေက သတ်မှတ်ပြီးတော့ ထားတာ၊ တစ်ခါတလေ ဒိန်းကနဲဆိုယင် ဒီထဲက နည်းနည်း အသိမြန်သလိုလို ဘာလိုလို ရှိနေတယ် မဟုတ်လား။ ဒါကြောင့် ဘုန်းကြီးတို့က လက်ခံထားတာဘဲ။

**အကုသိုလ်မပြုဖို့ လိုတာပါ** လက်ခံထားတော့လည်း အကုသိုလ် မပြုဖို့ လိုတာပါ။ လက်မခံတော့လည်း အကုသိုလ်မပြုဖို့ လိုတာပါ။ လက်ခံတော့လည်း တရား နှလုံးသွင်းဖို့ လိုတာပါ။ လက်မခံတော့လည်း တရား နှလုံးသွင်းဖို့ လိုတာပါ။ ဒီလောက်အရေးကြီးတဲ့ ပြဿနာတော့ မဟုတ်ပါဘူးလို့ ဘုန်းကြီးက ယူဆထားတယ်။

## မေးခွန်း (၂၁)

**မေး။** ။ တစ်ပါးသောရဟန်းက ဝိနည်းတော်နှင့် မအပ်သောနည်းဖြင့် ရရှိထားသော၊ ဥပမာ ဒကာ ဒကာမတို့ လှူချင်လာအောင် ဆွယ်တရားဟော၍ ရရှိထားသော ဆွမ်း ကျောင်း အစရှိသည်တို့ကို စားသုံးသူ ရဟန်းတိုင်း အပြစ်ရှိသည်ဟု ဆိုပါသည်။ တရားတော်၌

http://www.dhammadownload.com



'စေတနာဆန္ဒ အဓိကပါ' ဆိုထားရာ မအပ်သောနည်းဖြင့် ရရှိထားသော ဆွမ်းမှန်း ကျောင်းမှန်းမသိ၍ စားသုံးမိလျှင် စားသုံးနေသော ရဟန်းသည် စေတနာမပါ၍ အပြစ်ရှိသလား။

**ဖြေ။** ။ အပြစ်ရှိတာကို တစ်ခန်း၊ အာပတ်သင့်တာကို တစ်ခန်း။ အာပတ် သင့်တယ်ဆိုတာ အပြစ်ဘဲ။ ပြီးတော့ အကုသိုလ်အပြစ် ရှိသလား၊ မရှိဘူးလား။ ဒါကို စဉ်းစားရမယ်။ မအပ်မရာ ကျောင်းကြီးကို ဘုန်းကြီးတို့နေမိယင် အာပတ်သင့်တယ်။ အကုသိုလ်ပြစ်ရှိသလား၊ မရှိဘူးလားဆိုတော့ ယူဆနေကြတာက အာပတ်ရှိနေယင် တရားအားထုတ်တဲ့အခါမှာ တရားမထင်နိုင်ဘူး။ ဒီလို ယူဆနေကြတယ်။ ဒါကို ဘုန်းကြီးငြင်းလည်း မငြင်းပါဘူး။ ထောက်လည်း မထောက်ခံပါဘူး။

**အာပတ်နှစ်မျိုး** ဒါဖြင့် ဒီကျောင်းထဲ နေတာနဲ့ဘဲ၊ ငရဲ-ပြိတ္တာ-တိရစ္ဆာန်တစ်ခုခု ဖြစ်ရတော့မလားဆိုတော့ ဘုန်းကြီးတို့စာမှာ နိယတအာပတ်၊ အနိယတအာပတ် နှစ်မျိုးခွဲထားတယ်။ နိယတ အာပတ်က မချွတ်ကေန်အမှန် ငရဲကျမယ်။ တိရစ္ဆာန်-ပြိတ္တာ ဖြစ်မယ်။ အနိယတအာပတ်က မသေချာပါဘူး။ သေခါနီး ထင်တဲ့

http://www.dhammadownload.com



အာရုံနဲ့ဆိုင်ပါတယ်။ နိယတအာပတ်ကတော့ သေခါနီး ကေန်မုချ ဒီအာရုံကို ဆိုက်မှာ၊ နိယတအာပတ်က ဘယ်လို အာပတ်မျိုးတုံးဆိုတော့ အနန္တရိယကံဆိုတဲ့ အမေကို သတ်မိတဲ့ ပါဏာတိပါတဆိုတဲ့ အာပတ်မျိုး။ လူလည်း မထွက်ဘူး၊ လူထွက်လည်းဘဲ သူကတော့ ကျမှာဘဲ။ အင်မတန် ဆိုးဝါးတဲ့ အကုသိုလ်မျိုး ပြုထားတယ်၊ ပြုထားယင် သူ့သေခါနီး ထင်ကိုထင်မှာ။ အဲဒါ နိယတအာပတ်။

**အဲဒီလိုဟာကြောက်လို့** တချို့အာပတ်တွေက ကိုယ်လည်း မသိဘူး။ တရားအားထုတ်တော့ မရဘူးလို့ ဆိုထားတယ်။ ဒါ ဟုတ်ချင်လည်း ဟုတ်လိမ့်မယ်။ ဒီလိုဘဲ ဘုန်းကြီး လက်ခံတယ်လေ။ အပြစ် ဘယ်လောက်ကြီးသလဲဆိုတော့ နဂိုကမှ နိယတအာပတ်မှ မဟုတ်ဘဲနဲ့။ သူ့သေခါနီး ကောင်းတဲ့အာရုံတွေ ထင်လာလို့ရှိယင် ကောင်းတဲ့ဂတိဘဲ ရောက်မှာဘဲ၊ သို့သော်လည်း ဆယ်ရေးတစ်ရေး ကိုးရေး တစ်ရာ၊ အနိယတဖြစ်တဲ့ အာပတ်တွေကြောင့်လည်း သေခါနီး ထင်လာတတ်တာ ဖြစ်တော့ ထင်လာတဲ့ ဝတ္ထုတွေကလည်းရှိတော့ အဲဒီလိုဟာ ကြောက်လို့မို့ အာပတ် မသင့်အောင်ဆိုပြီးတော့ ကြိုးစားနေကြတော့တာဘဲ။

http://www.dhammadownload.com



## မေးခွန်း (၂၂)

**မေး။** ။ ကုသိုလ် အကုသိုလ်အရာမှာ အကုသိုလ်ကံကို မလုပ်ရုံမျှဖြင့် ကုသိုလ်ဖြစ်ပါသလား။

ဥပမာ– အသက်သတ်ခြင်းဆိုတဲ့ အကုသိုလ်ကို ကျူးလွန်ခြင်းမှ ရှောင်ကြဉ်ခြင်းအားဖြင့် ကုသိုလ်ဖြစ်ပါသလား။

**ဖြေ။** ။ဒါက သိမ်မွေ့တယ်။

**ကုသိုလ်ဝိရတီ** သူ့အသက်သတ်ဖို့လို့ ရှေ့ရောက်လာတယ်။ သတ်မယ်လို့လည်း စိတ်ကတော့ ကူးထားတယ်၊ နောက်တော့ တစ်စုံတစ်ခုသော အဖြစ်ကြောင့် မသတ်ပါဘူးလေလို့ ရှောင်လိုက်ယင် အဲဒီရှောင်တဲ့စိတ်က ကုသိုလ်စိတ်–ဝိရတီ။ ဝိရတီစေတနာပါနေတဲ့ ကုသိုလ်စိတ်ဖြစ်တယ်။ ရှောင်တာနဲ့ကို ဖြစ်တာဘဲ။

**ညစာမစားဘဲ ရှောင်တဲ့စိတ်** ဘုန်းကြီးတို့ ဥပုသ်သည်တွေမှာ ဥပုသ်မှ ကုသိုလ်တွေ ဖြစ်နေတယ်ဆိုတဲ့ဥစ္စာ ရှောင်နေတာဘဲ။ သဘာဝကတော့ နဂိုတုန်းက ဗုဒ္ဓမြတ်စွာရဲ့ တရားတော်အရ ညစာ မစားပါဘူးလို့ ရှောင်နေတာဖြစ်တော့ ညစာ စားချင်လိုက်တာ။

http://www.dhammadownload.com



စားချင်ပေမယ့်လို့ သီလပျက်မှာစိုးလို့ သူက ရှောင်တယ်။ ရှောင်တဲ့ ဝိရတီစေတသိက်ဖြစ်တာဘဲ။ အဲဒီဟာ ကုသိုလ် ခေါ်တာ။

## မေးခွန်း (၂၃)

မေး။ ။ ကိုယ့်ကိုယ်ကို သောတာပန်ဖြစ်ပြီ၊ ရဟန္တာ ဖြစ်ပြီ မည်သို့သိနိုင်ပါသလဲ။

ဖြေ။ ။ အစစ်ဖြစ်လို့ရှိယင်တော့ သူတို့ ပစ္စဝေက္ခဏာ ဆင်ခြင်ရသေးတယ်။ ဆင်ခြင်တဲ့အခါမှာ တကယ့်ကို နိဗ္ဗာန်အာရုံကို ရနေတယ်။ ဘကယ့်ကို မင်္ဂကို အာရုံရနေတယ်ဆိုယင်တော့ သူသိ ဘာဘဲ။ ဒီလိုမဟုတ်ဘဲနဲ့ဆိုယင် သူ မသိနိုင်ပါဘူး၊ ပစ္စဝေက္ခဏာ မဆင်ခြင်ဘဲနဲ့ဆိုယင် သူမသိပါဘူး။ သောတာ ပန်ဖြစ်မှန်းလည်း မသိပါဘူး။ မဖြစ်မှန်းလည်း မသိပါဘူး။

## မေးခွန်း (၂၄)

မေး။ ။ အပြင်လူကော သိနိုင်ပါသလား။

ဖြေ။ ။ အပြင်လူဆိုတာကတော့၊ တစ်ခါတုံးက

http://www.dhammadownload.com



**ရဟန္တာမှန်း သိဖို့သိပ်ခက်** ရဟန္တာ အရှင်မြတ်ကြီးရဲ့ နောက်က တောထွက်ကြီးတစ်ပါး သပိတ်ယူပြီးတော့ လိုက်သွားတယ်။ လိုက်သွားတော့ သူက သူ့ဆရာဘုန်းတော်ကြီးကို လျှောက်တယ်။ 'အရှင်ဘုရား ရဟန္တာများ ဘယ့်နှယ်လုပ်ပြီးတော့ သိရပါမလဲ'၊ 'ဦးပဥ္စင်းကြီး ရဟန္တာဆိုတာ အင်မတန် အသိခက်တယ်။ သပိတ်ကိုင်ပြီးတော့ နောက်ကလိုက်တောင်မှ သိဖို့ ခဲယဉ်းတယ်' လို့ အမိန့်တော်ရှိတော့၊ ရဟန္တာမှန်း သိဖို့ သိပ်ခက်တယ်။

**ကမ္မဋ္ဌာန်းဆရာလည်း မသိ** ရဟန္တာမှန်းသိဖို့ သိပ်ခက်တယ် ဆိုယင် သောတာပန်မှန်း သိဖို့ ဆိုတာလည်း သိပ်ခက်တာဘဲ။ ဘယ်လိုပုဂ္ဂိုလ်မှ သိတုံးဆိုတော့ ပရစိတ္တဝိဇာနန-သူ တစ်ပါးစိတ်ကို သိတဲ့ဉာဏ်ကို ရနေတဲ့အချိန်ကျမှ သောတာပန် ဟုတ်တယ်၊ မဟုတ်ဘူးဆိုတာ သိတယ်။ ပရစိတ္တဝိဇာနန အဘိညာဉ်ကို မရလို့ရှိယင် ကမ္မဋ္ဌာန်း ဆရာကိုယ်တိုင် သူ့တပည့် တရားပေါက်တယ်၊ မပေါက်ဘူးဆိုတာ မသိနိုင်ဘူး။

http://www.dhammadownload.com



## မေးခွန်း (၂၅)

မေး။ ။ရဟန္တာသည် သံဃာတော်များ လိုက်နာရန် ဘုရားရှင် ပညတ်တော်မူခဲ့သော ဝိနည်း သိက္ခာပုဒ်တော် အထူးသဖြင့် သံဃာများ နည်းတူ လိုက်နာရပါသလား၊ မလိုက်နာဘဲ ရဟန္တာ ဖြစ်နိုင်ပါသလား။

ဖြေ။ ။ပုထုဇဉ်ထက် ပိုပြီးတောင် လိုက်နာရမယ်။ မလိုက်နာလို့ရှိယင် ရဟန္တာဆိုတာ ဝေးလို့၊ သောတာပန်တောင် မဖြစ်နိုင်ဘူး။

## မေးခွန်း (၂၆)

မေး။ ။ တပည့်တော် လျှောက်တာ တခြားကြောင့် မဟုတ်ပါဘူး။ အဲဒီလို ရဟန္တာတွေ အများကြီး ဖြစ်နေလို့။

ဖြေ။ ။ အဲ–နေပါစေ – နေပါစေ။ သူတို့ဟာသူတို့ နေပါစေ။

http://www.dhammadownload.com



## မေးခွန်း (၂၇)

**မေး။** ။ ဝတ္တုရားအရ တရားစီရင်ရသော တရားသူကြီးသည် အပြစ်မရှိသောသူအား အပြစ်ပေးမိလျှင်၊ သို့မဟုတ် အဟုတ်အပြစ်ရှိသူအား အပြစ်ပေးမိလျှင်။ ဥပမာ– လူသတ်မှု စီရင်ရာတွင် မဆိုင်သူကို သေဒဏ်ပေးမိလျှင်၊ သို့မဟုတ် လူသတ်သမားအား သေဒဏ်ပေးမိလျှင် လောကုတ္တရာတွင် မည်သို့ အကျိုးပေးပါသနည်း။

**ဖြေ။** ။ အဲဒါကတော့ တရားတော်အတိုင်း ဖြစ်မှာပါဘဲ။

## မေးခွန်း (၂၈)

**မေး။** ။ ဗုဒ္ဓဘာသာဝင်တစ်ဦးနှင့် ဘာသာခြားတစ်ဦးတို့သည် တူညီသော အလှူဒါနတစ်ခုစီကို စေတနာတူစွာဖြင့် အတူတူ ပြုလုပ်ကြပြီး အကျိုးပေးပုံ မည်သို့ ကွာခြားသွားသနည်း။

**ဖြေ။** ။ အဲဒါကတော့ စေတနာတူစွာဖြင့် ဆိုတဲ့ ဥစ္စာကို လူတစ်ဘက်သားကို ရစေလိုတဲ့

http://www.dhammadownload.com



စေတနာချင်းသာ တူနိုင်တယ်။ ကံနှင့် ကံရဲ့ အကျိုးကို ယုံကြည်တဲ့သဒ္ဓါချင်း မတူနိုင်ဘူး။ ပြီးတော့ အမြော်အမြင် ဆိုပါတော့၊ မဂ်ဖိုလ်နိဗ္ဗာန်ဆိုတာမျိုးက မတူနိုင်ဘူး။ မတူနိုင်လို့ရှိယင် သာတာက အကျိုးကြီးမှာပါဘဲ။

## မေးခွန်း (၂၉)

**မေး။** ။ သေတဲ့အခါမှာ ရုပ်နဲ့ စိတ်တို့ ချုပ်ပုံ ရှင်းပြပါ။

**ဖြေ။** ။ ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန် စံတော်မူခါနီးမှာ အားလုံးကြားဖူးတဲ့အတိုင်း အပ္ပမာဒေန သမ္ပာဒေထ–လို့ မိန့်တော်မူလိုက်ပါတယ်။ မိန့်တော်မူပြီးတဲ့နောက် နှုတ်တော်မှ စကားတစ်လုံးမှ မြွက်တော်မမူတော့ပါဘူး။ ဈာန်ဝင်စား ပါတယ်၊ ဈာန်ဝင်စားတဲ့အခါမှာ ပထမဈာန်ဝင်စား၊ ဈာန်မှထ ပစ္စဝေက္ခဏာဆင်ခြင်၊ ဒုတိယဈာန်ဝင်စား၊ ဒီလို အပြန် အလှန် ဈာန်ဝင်စားပြီးတော့ နောက်ဆုံး ဈာန်လည်း ကုန်ရော ပရိနိဗ္ဗာန်စုတိစိတ် ပေါ်လာပါတယ်။

**ပရိနိဗ္ဗာန် စုတိစိတ်**

http://www.dhammadownload.com



**ဥတုဇရုပ် ကျန်နေ** စုတိစိတ်မပေါ်ခင် ၃၆ ချက်လောက်ကတည်းက ကမ္မဇရုပ် အသစ်မဖြစ်တော့ပါဘူး။ နောက်ဆုံး စုတိစိတ်လည်းဖြစ်ရော ကမ္မဇရုပ်လည်း နောက်ဆုံးချုပ်တာဘဲ။ ကမ္မဇရုပ်နဲ့ စုတိစိတ် တစ်ပြိုင်နက် ချုပ်ပါတယ်။ အရင်တွေ ဘာတွေ မရှိပါဘူး။ သို့သော်– ဥတုဇရုပ် ကျန်နေပါတယ်။ ဥတုဇရုပ်ကတော့ ခု အလောင်းတွေလိုဘဲ။ ဗုဒ္ဓမြတ်စွာရဲ့ အလောင်းတော်မှာလည်း ဥတုဇရုပ် ကျန်တော်မူပါတယ်။ ဒါကြောင့် အဲဒီရုပ်ကတော့ ပရိနိဗ္ဗာန်စံပြီးတဲ့ နောက်ပိုင်းမှာ ကျန်တော်မူပါတယ်။

**ဇီဝိတဆိုတဲ့ အသက် ကျန်နေသမျှ မသေ** အာဟာရဇရုပ်တို့ စိတ္တဇရုပ်တို့ ဆိုတာက အဘိဓမ္မာသင်္ဂြိုဟ် သင်ဖူးတဲ့သူမှ သိပါတယ်။ နည်းနည်းကလေး ကျန်တယ်လို့ ဆိုရရုံကလေး ကျန်ပါတယ်။ ပြန်ချုပ်တာပါဘဲ။ ဥတုဇရုပ်သာ ကျန်နေပါတယ်။ ကမ္မဇရုပ်ကတော့ တစ်ပြိုင်နက်ချုပ်ပါတယ်။ ကြည်ညိုစရာကောင်းအောင်လို့ ဘုရားကို ပြောရတယ်။ ဘုန်းကြီးသေလည်း တစ်ပြိုင်နက်ချုပ်မှာဘဲ။ ကမ္မဇရုပ် မချုပ်သမျှ ဇီဝိတဆိုတဲ့အသက် ကျန်နေသေးတယ်။ အသက်ကျန်နေသမျှ သေကို မသေဘူး၊ စုတိစိတ်ကို မဖြစ်သေးဘူး။

http://www.dhammadownload.com



## မေးခွန်း (၃၂)

**မေး။** ။ ဘုရား၊ ရဟန္တာများ စုတိစိတ်တော်ဖြစ်ပြီး နောက် ဘဝသစ်ခန္ဓာ မပေါ်တော့ဘူး။ ဘဝသစ်ခန္ဓာမပေါ်ဘဲ ငြိမ်းသွားတာ နိဗ္ဗာန် ဘဲမဟုတ်လား။

**ဖြေ။** ။ ဒီလိုတော့ မဟုတ်ဘူး။ ဘပသစ်ခန္ဓာ မပေါ်ဘဲ ငြိမ်းသွားတာကို နိဗ္ဗာန်လို့ဆိုချင် စရာကောင်းအောင် တရားတော်မှာရှိတယ်။ အယံပဒီပေါ-ဤဆီမီးသည်၊ နိဗ္ဗုတောယထာ-ငြိမ်းအေးသကဲ့သို့၊ ဓီရာ-ရဟန္တာ ပညာရှိတို့သည်၊ နိဗ္ဗန္တိ-ငြိမ်းအေးတော် မူကြကုန်၏ လို့ ပရိတ်ကြီးက၊ ဒါကြောင့် ဘဝဆက်မရှိဘဲနဲ့ ကမ္မဇရုပ် စုတိစိတ်တော်များ ချုပ်သွားခြင်းသည်ပင် နိဗ္ဗာန်လို့ဆိုတော့ နိဗ္ဗာန် ဘာမှမရှိဘူး။

## မေးခွန်း (၃၃)

**မေး။** ။ မီးငြိမ်းသွားသလိုဆိုတော့ လုံးဝ ဘာမှမရှိ ဘူးလား။

**ဖြေ။** ။ ဒီလိုမဟုတ်ဘူး။ အဲဒါက ဗုဒ္ဓမြတ်စွာက ဘယ်မှမရောက်ဘူးဆိုတဲ့ အဓိပ္ပာယ်မျိုးကို

http://www.dhammadownload.com



ဥပမာပြတာ။ ဗုဒ္ဓမြတ်စွာ သဗ္ဗညုတဉာဏ်ရတော်မူတဲ့ အချိန်တုန်းက သစ္စာလေးပါးတရားကို သိတော်မူတယ်။ ဒါကို နားလည်တယ်နော်။ အဲဒီအချိန်တုန်းက နိရောဓ သစ္စာကို သစ္ဆိကရဏီယ သစ္ဆိကတ အဖြစ်နဲ့ မျက်မှောက် ပြုတော်မူတယ်။

**မျက်စိအောက်ကို ရောက်နေသလိုမြင်** မျက်မှောက်ပြုတော်မူတယ်ဆိုတဲ့ ဥစ္စာ မျက်စိအောက်ကို ရောက်နေသလိုကို မြင်တော်မူတယ်။

ဒါကို သဘောပေါက်ပြီလား၊ နိရောဓသစ္စာကို မျက်စိ အောက်ရောက်သလိုကို မြင်တော် မူတယ်၊ ဒါကို သဘော ပေါက်သလား။ နိရောဓသစ္စာ နိဗ္ဗာန်၊ ဗုဒ္ဓမြတ်စွာ ဘုရားဖြစ်တဲ့အချိန်တုန်းက အရဟတ္တမဂ် ဆိုပါတော့၊ နောက်ဆုံးမဂ်ကို ရတယ်။ အတူတူဘဲ၊ သောတာပတ္တိ မဂ်ရော ဘာရော၊ အဲဒီမဂ်ရတဲ့အချိန်တုန်းက နိဗ္ဗာန်ကို မြင်တော်မူတယ်။

**မရှိနိဗ္ဗာန် မဟုတ်** အဲဒီရှိနိဗ္ဗာန်ဟာ မရှိနိဗ္ဗာန်မဟုတ်ဘူး။ ဘယ့်နှယ် နေတုံး၊ ရှိနိဗ္ဗာန်ဟုတ်လား။ အဲဒီ ရှိနိဗ္ဗာန်ဟာ ဗုဒ္ဓမြတ်စွာရဲ့ ဘုရားဖြစ်ပြီးတဲ့နောက် ပထမ သတ္တာဟမှာ ပျောက်သွားသလား၊ အချိန်မရွေး ဘုရား

http://www.dhammadownload.com



အာရုံပြုလို့ မရဘူးလား။ မပျောက်ဘူးနော်၊ ရှိတဲ့ဥစ္စာမှ လေလိုရှိနေတာ မဟုတ်ဘူး၊ အသခ်တဓာတ် မြတ်သော ဓာတ်အဖြစ်နဲ့ ရှိနေတာနော်။ ဗုဒ္ဓမြတ်စွာ (၇) သတ္တာဟ ရှိတော့လည်း ဒီနိဗ္ဗာန်ဟာ အာရုံပြုယင် ရတယ်မဟုတ်လား၊ မပျောက် ဘူးနော်။ ကောင်းပြီ၊ ၄၅ - ဝါ ကာလပတ်လုံး ပရိနိဗ္ဗာန် စံခါနီးမှာလည်း အဲဒီနိဗ္ဗာန် ပျောက်သွားသလား၊ မပျောက်ဘူးနော်။

**နိဗ္ဗာန် ပျောက်မသွား** အဲဒီနိဗ္ဗာန်ကို ဘာခေါ်တုံးဆိုတော့ သဉပါဒိသေသ နိဗ္ဗာန်တဲ့၊ ခန္ဓာကမ္မဇ ရုပ် ရှိနေသေးတဲ့နိဗ္ဗာန်၊ ဒီနိဗ္ဗာန်ဘဲ၊ နားလည်ပြီနော်။ ဒီနိဗ္ဗာန်ဟာ ဘယ်သူ့နိဗ္ဗာန်လဲလို့ဆိုယင် ဘယ်နှယ့်ပြောမတုံး။ ဘုရားရဲ့နိဗ္ဗာန် မဟုတ်လား၊ ဆိုပါ တော့ပေါ့၊ ပစ္စည်းတစ်ခုကို ဒကာငယ်ငယ် တုံးက စပြီး ကိုင်တဲ့ဥစ္စာဟာ ခုထိရှိနေသေးယင် ဒကာ့ ပစ္စည်းဘဲ မဟုတ်လား။ ဒီတော့ ဒကာသေသွားတဲ့အခါမှာ ဒကာသာ သေတာ၊ ဒကာ့ပစ္စည်း ဘယ့်နှယ်နေတုံး၊ ကျန်ခဲ့မယ်နော်။ ဗုဒ္ဓမြတ်စွာရဲ့ ရုပ်နာမ်ခပ်သိမ်းသာ ချုပ်ငြိမ်းတော်မူတာ။ ခုနက နိရောဓဆိုတဲ့နိဗ္ဗာန်က အဲဒီအချိန်မှာ အနုပါဒိသေသ နိဗ္ဗာန်လို့ နာမည်သာပြောင်းလိုက်တာ၊ ဒီနိဗ္ဗာန်ဘဲ။ ပျောက် မသွားပါဘူး။

http://www.dhammadownload.com



## မေးခွန်း (၃၄)

**မေး။** ။ ဘုရားရဟန္တာများ စုတိစိတ်ဖြစ်ပြီးနောက် ဥပ္ပါဒ နိရောဓ ပျောက်သွားတယ်၊ အနုပ္ပါဒ နိရောဓ ကျန်နေတယ်ဆိုပါတယ်၊ ဟုတ်ပါသလား။

**ဖြေ။** ။ ဒကာကြီး စာတော်တော် လေ့လာဖူးသလား၊ စာတော်တော် လေ့လာဖူးလို့ရှိယင် အနုပ္ပါဒ နိရောဓကို ဟောတဲ့ဘုန်းကြီးကို သွားမေး၊ ဒီနိဗ္ဗာန်ဘဲလားလို့။ နိရောဓဆိုတဲ့ဥစ္စာ ချုပ်တာကိုပြောတာ၊ အဲဒီ အနုပ္ပါဒနိရောဓက နောက်ထပ်ဆက်မဖြစ်လို့ နောက်ထပ် ဆက်မဖြစ်တဲ့အချုပ်ကို အနုပ္ပါဒနိရောဓလို့ ခေါ်တာ။ ဟို နိဗ္ဗာန်ကို ခေါ်တာမဟုတ်ဘူး။

## မေးခွန်း (၃၅)

**မေး။** ။ မတော်မလျော်နေသော ရဟန်းသာမဏေများကို အပြစ်ပြောလျှင် အကုသိုလ် ဖြစ်ပါသလား။

**ဖြေ။** ။ စိတ်ရင်းက သာသနာတော် ကောင်းစားစေလိုတဲ့ စေတနာရှိယင် အကုသိုလ်မဖြစ်ဘူး။

http://www.dhammadownload.com



**ကိုယ့်စိတ်ကိုဆုံးဖြတ်** သူ့ကို နှိပ်နှိပ်စက်စက် ပြောနေတဲ့အချိန်မှာ ကောင်းစားစေလိုတဲ့ စေတနာက မှုရင်းပါပေမယ့်လို့၊ သူပြောနေတဲ့အချိန် အကုသိုလ်ဆိုတော့လည်း ဖြစ်မှာဘဲ။ ကိုယ့်စိတ်ကို ကိုယ်ဆုံးဖြတ်ပေါ့။ ငါ ဒေါသဖြစ်လိုက်တယ်ဆိုယင် အကုသိုလ်ဘဲ။ ဒေါသမဖြစ်ဘူး၊ အရှင်ဘုရား သာသနာတော်ဆိုတဲ့ဥစ္စာဟာ အင်မတန် မွန်မြတ်တယ် စသည်ဖြင့် ကိုယ့်အပြောနဲ့ ကိုယ့်စိတ်ကို ကိုယ်ထိန်းနိုင်လို့ရှိယင် ကုသိုလ်တွေသာ ဆက်ဖြစ်သွားမယ်။ ကိုယ့်စိတ်ကိုသာ ဆုံးဖြတ်ပါ။ ကိုယ်က ဒေါသနဲ့ ငါထိုးပြီးတော့ ချလိုက်ရ ဘယ့်နှယ်နေမလဲ-ဘာလဲဆိုယင် အကုသိုလ်ဖြစ်မှာဘဲ။ အကုသိုလ်မဖြစ်အောင် ကိုယ့်ဘာသာ ကိုယ် ထိန်းပြီးတော့ ချိုချိုသာသာ ပြောပေါ့။

**ဆိုးဆိုးဝါးဝါး ဘုရားလက်ထက်ကရှိခဲ့** သို့သော်လည်းဘဲ တစ်နေရာမှာ တော်တော်ဆိုးဆိုးဝါးဝါး ကိုယ်တော်တွေ ဘုရားလက်ထက်ကတည်းကရှိတယ်။ အဲဒီ မသန့်ရှင်းတဲ့ ကိုယ်တော်တွေက ဘယ်သူတွေတုံးဆိုတော့ အရှင်သာရိပုတ္တရာနဲ့ အရှင်မောဂ္ဂလ္လာန်ရဲ့ တပည့်တွေ၊ ကိဋာဂိရိဇနပုဒ်မှာ ဘယ်လိုဖြစ်နေကြပါတယ်။ သာသနာကို ဖျက်ဆီးရုံသာမကဘူး။

http://www.dhammadownload.com



လူတွေကပါ အဲဒီဘုန်းကြီးတွေကို သိပ်အားပေးနေကြတယ်။ လူတွေက သိပ်အားပေးနေတော့ ကောင်းကောင်း ကိုယ်တော်တစ်ပါးလာတော့ ဆွမ်းကို မလောင်းကြဘူး။ လူတွေပါ ပျက်စီးကုန်ပြီ။

**မြတ်စွာဘုရားက နှင်ထုတ်ခိုင်း**

အဲဒီ အကြောင်းအရာတွေကို ဒကာကြီး တစ်ယောက်က 'ဘုရားကို လျှောက်ပေးပါဘုရား' လို့ဆိုတော့ ကိုယ်တော် တစ်ပါးက ဘုရားကို လျှောက်တယ်။ လျှောက်တော့ ဗုဒ္ဓမြတ်စွာက 'သာရိပုတ္တရာ–မောဂ္ဂလ္လာန် တို့ သင်တို့ရဲ့ တပည့်တွေ၊ သွား၊ အဲဒီနေရာမှာ မနေဖို့ရန် နှင်ထုတ်လိုက်ကြ' ဆိုတော့ အရှင်သာရိပုတ္တရာက 'သူတို့က နည်းနည်းကြမ်းပါတယ်ဘုရား' တဲ့။ ထွက်ချင်မှ ထွက်မှာ ကိုး။ ဗုဒ္ဓမြတ်စွာက များများခေါ်သွားတဲ့။ သူတို့က ကြမ်းယင် ဒီက ကြမ်းကြမ်းနဲ့ ချရတော့မှာ။ သာသနာက အမျိုးစုံ ဖြစ်ခဲ့တာမို့ ဘုန်းကြီးတို့ကလည်း သိပ်ပြီးတော့ ဗဟုသုတ လိုက်စားလာခဲ့တော့ သိနေတယ်။

**မသန့်ရှင်းတဲ့ ကိုယ်တော်ပါလို့ ဩဝါဒမပေး**

တစ်ခါတုံးက ဗုဒ္ဓမြတ်စွာ ဩဝါဒ ပေးဖို့ရန် သီတင်းသုံးနေတော် မူတယ်။ သံဃာများကလည်း

http://www.dhammadownload.com



စည်းဝေးပြီးတော့ နေတယ်။ ဗုဒ္ဓမြတ်စွာ ကြည့်တော့ မသန့်ရှင်းတဲ့ပုဂ္ဂိုလ်က ပါနေပြီ၊ မသန့်ရှင်းတဲ့ပုဂ္ဂိုလ် တစ်ပါး။ ဒီတော့ ဩဝါဒ မပေးဘူး။ အရှင်အာနန္ဒာက မြတ်စွာဘုရား ပထမယံလည်း လွန်သွားပါပြီ၊ နေရတာလည်း သံဃာများမှာ အင်မတန် ကြာနေပါပြီ၊ ဩဝါဒချီးမြင့်ပါလို့ လျှောက်ထားတယ်။ ဗုဒ္ဓမြတ်စွာက မလှုပ်ဘူး၊ ဘာမှအမိန့်မရှိ။ ဒီလိုဘဲ ထိုင်နေတော်မူတယ်။ သံဃာများကလည်း ငြိမ်လို့သာ နေတယ်။ ဘာဖြစ်ပါလိမ့်မတုံး၊ ဘာလုပ်ပါလိမ့်မတုံး။ နောက် ဒုတိယ သန်းခေါင်ယံကျော်လာရော။ သံဃာများ ထိုင်ရတာကြာပါပြီ ဘုရား၊ ဒုတိယသန်းခေါင်ယံလည်း ကျော်လာပါပြီ။ ဩဝါဒပေးတော်မူပါဘုရား။ မလှုပ်ဘူး။

**ရှင်မောဂ္ဂလ္လာန်က ဆွဲထုတ်ပစ်** နောက်တော့ အရုဏ်တက်ခါနီးနေပြီ၊ အရုဏ်လည်း တက်လုနေပါပြီဘုရား၊ သံဃာများလည်း ထိုင်ရတာကြာပါပြီ၊ ဩဝါဒပေးပါလို့ လျှောက်တော့ အာနန္ဒာ မစင်ကြယ်တဲ့ ပရိတ်သတ်ထဲမှာ ငါဘုရား ဩဝါဒပေးရိုး မရှိဘူး။ ဒီလိုအမိန့်ရှိလိုက်တော့ အဲဒီမှာမှ ရှင်မောဂ္ဂလ္လာန်က ကြည့်တာကိုး၊ ဉာဏ်နဲ့ကြည့်တော့ တစ်နေရာမှာ သီလပျက်နေတဲ့ ကိုယ်တော်တစ်ပါး တွေ့ရော။ အဲဒီတင် ပုထုဇဉ်အသွားမျိုး ဆိုယင် ဒုန်းဒုန်းလို့နေမှာပေါ့လေ။ ရှင်မောဂ္ဂလ္လာန်က

http://www.dhammadownload.com



ဒေါသဖြစ်တာမှမဟုတ်ဘဲ၊ မှန်မှန်သွားပြီးတော့ ဘုန်းတော်ကြီးဘုရားက မစင်ကြယ်တဲ့ ပရိသတ်ကို မပေးဘူးဆိုပြီးတော့ ဩဝါဒ မပေးဘဲနဲ့ နေတဲ့ဥစ္စာ သင်ဒီလောက်တောင် ကြာကြာကြီး နေရသလားဆိုတော့ လက်ဆွဲပြီးတော့ကို ထုတ်ပစ်တာဘဲ။

**ခပ်ကြမ်းကြမ်း လုပ်ရမှာဘဲ** ပုထုဇဉ်တွေသာဆိုလို့ရှိယင်တော့ ဟာ... ရှင်မောဂ္ဂလ္လာန်ကြီး သိပ်ကို စိတ်ဆိုးတာဘဲလို့ ပြောမှာပေါ့။ ရဟန္တာမို့လို့ စိတ်မဆိုးပါဘူး။ ဒါဖြင့် ဘာဖြစ်လို့ ဆွဲထုတ်ပစ်ရတာလဲဆိုယင် ဘုန်းကြီးတို့ သာသနာက ဒီလိုပါဘဲ။ ကြမ်းသင့်တာကို ကြမ်းစေရတာပါဘဲ။ အရေးရှိယင် ခပ်ကြမ်းကြမ်းဘဲ အလုပ် လုပ်ကြရမှာပါဘဲ။

## မေးခွန်း (၃၆)

**မေး။** ။ စက္ခုပသာဒရုပ်က ကမ္မဇကေန် သက်သက်သာ ဖြစ်သောကြောင့် အချို့ဆရာဝန်များ လူသေမျက်စိကို လူကောင်းတစ်ယောက်ထဲ ထည့်ကုလို့ မြင်တယ်ဆိုတာ ဖြစ်နိုင်ပါသလား။

http://www.dhammadownload.com



**ဖြေ။** ။ ဒီလို ဘုန်းကြီး စဉ်းစားတယ်။ စက္ခုပသာဒက ဖြစ်ပျက်နေတာ၊ ဖြစ်ပျက်ဆိုတဲ့ စက္ခုပသာဒသာ အကယ်၍ သူဖြစ်လောက်အောင် အရာဝတ္ထု လူတွေရဲ့မျက်လုံးက ရလာလို့ရှိယင် ရှေးကံကလည်း ရှိနေယင် ကမ္မဇရုပ် ပေါ်လာတာဘဲ။ ကမ္မဇရုပ်ကလည်း ဖြစ်ပျက်နေတာမဟုတ်လား၊ ရပ်နေတဲ့ ကမ္မဇရုပ် မဟုတ်၊ ပဋိသန္ဓေနေတုန်းကပါနေတဲ့ ကမ္မဇရုပ်ချည်း မဟုတ်။ နောက်ထပ်ဖြစ်–နောက်ထပ်ဖြစ်၊ ဖြစ်ပျက်–ဖြစ်ပျက်–ဖြစ်ပျက်၊ အဲဒီတော့ လူသေရဲ့ဟာကို ယူပြီးတော့ မျက်စိမြင်တယ်လို့ ဆိုတာ ပသာဒရုပ် ရှိတာဘဲ၊ ပသာဒရုပ်က ထပ်ဖြစ်လာပြီ။

## မေးခွန်း (၃၇)

**မေး။** ။ လူတိုင်းတော့လည်း မရပါဘူး။

**ဖြေ။** ။ ဒါပေါ့၊ လူတိုင်းတော့ ရမှာမဟုတ်ဘူး၊ ခုနက ကံ အဆင်သင့်မှ ရမှာဘဲ။ တစ်ခါတလေ မျက်စိဆရာဝန်တွေ ဒါကတော့ ကုလို့မရတော့ဘူးလို့။ တစ်ဆင့်ပြောင်းတာတော့ မဟုတ်ဘူး၊ ဒီမျက်စိကိုဘဲ ကုလို့ မရတော့ဘူး။ သူတို့ ဘာမြင်သလဲတော့ မသိဘူးပေါ့လေ၊

http://www.dhammadownload.com



သူတို့ပညာနဲ့။ အဲဒီတော့ ကမ္ဘာဇရုပ် မဖြစ်နိုင်လောက်အောင် အခြေခံပျက်သွားချင် ပျက်သွားလိမ့်မယ်။

**ဒေါက်တာနေဝင်း**။ ။ ဆရာတော်ကို အခုလို အကြာကြီး လျှောက်ရတာကို ခွင့်ပြုပါ။

**ဆရာတော်** ။ ။ ကိစ္စမရှိပါဘူး၊ ကိစ္စမရှိပါဘူး။ သီလမရှိယင် မဖြစ်ပါဘူး။ သီလကို ထိန်းကြပါ။ ကဲ–ကဲ–သွားကြ–သွားကြ–သွားကြ။ ငါးပါးသီလတော့ ထိန်းကြပေါ့။

**သိပ္ပံအမြင်နှင့် ဗုဒ္ဓအဘိဓမ္မာ အဖြေများ ပြီးပြီ။**